# ဥဂဖြာမင်္ဂလာ ပုံပြင်များ

မင်းယုဝေ





# ၃၈-ဖြာမင်္ဂလာပုံပြင်များ

မင်းယုဝေ

မင်္ဂလာရောင်ခြည်စာပေဖြန့်ချိရေး
အမှတ်၊ ၁၉၄၊ ၃၃လမ်း၊ ရန်ကုန်မြို့။

# အမှာစာ

၃၈–ဖြာ မင်္ဂလာ တရားတော်ကို လူအများ၊ အထူးသဖြင့် လူငယ်များ စိတ်ဝင်စားစွာ လွယ်လင့်တကူ ဖတ်ရှုမှတ်သားနိုင်ရန် သရုပ်ပြ မင်္ဂလာပုံပြင်များကို ကျွန်တော် အချိန်ယူ၍ ရေးခဲ့ပါသည်။ ယင်းတို့ကို 'မင်္ဂလာမောင်မယ်စာစောင်'တွင် လစဉ် ဖော်ပြခဲ့ပါသည်။ ယခုအခါ ၃–နှစ်ကျော်ကြာ၍ မင်္ဂလာပုံပြင်များ အားလုံး ရေးသားဖော်ပြပြီး ဖြစ်ပါသည်။ ယင်းတို့ကို စာရှုသူအများ၏ မေတ္တာ ရပ်ခံချက်အရ တစ်စုတစ်ပေါင်းတည်း ဖတ်ရှုနိုင်ရန် စုပေါင်း၍ စာအုပ်အဖြစ် ယခု ထုတ်ဝေလိုက်ပါသည်။

ဤပုံပြင်များကို ရေးသားရာ၌ ဓာတ်လမ်းများကို ကျွန်တော် တီထွင်ဖန်တီး ရေးသားသည် မဟုတ်ပါ။ (၁) ငါးရာ့ငါးဆယ် ကောက်နုတ်ချက်များ (ဦးဖိုးကျား)၊ (၂)မြန်မာ့ဂုဏ်ရည် (ဦးဖိုးကျား)၊ (၃)ငါးရာ့ငါးဆယ် နိပါတ်တော် စကားပြေ (ပထမကျော်–ဦးကြီးဖေ)၊ (၄) ဓမ္မပဒ ဝတ္ထုတော်ကြီး (ညောင်လေးပင်တောရ ဆရာတော်ကြီး)၊ (၅) မင်္ဂလာသာရ ဒီပနီ ကျမ်းမူဟောင်း (ပုသိမ်မြို့၊ ဓမ္မ့မင်္ဂလာ သတင်းစာဓာတ်စက်ပုံနှိပ်တိုက်၊ ၁၉၂၈–ခု)၊ (၆) ပရိတ်ကြီးနိဿျသစ် (အဂ္ဂမဟာပဏ္ဍိတ ဆရာတော် အရှင်ဝါသေဋ္ဌာဘိဝံသ)၊ (၇)မင်္ဂလတ္ထ ဒီပနီကျမ်း (ညောင်ကန်ဆရာတော်ကြီး)၊ (၈) မဟာဗုဒ္ဓဝင် (တိပိဋကရေ ဆရာတော်ကြီး အရှင်ဝိစိတ္တသာရာဘိဝံသ)၊ (၉) မဏိရတနာပုံကျမ်း (ရှင်စန္ဒလင်္ကာ)၊ (၁၀) ဝိမာန ဝတ္ထုတော်ကြီး (ဝိဒိတာရုံ ဆရာတော်ကြီး)၊ (၁၁) ဓမ္မဂန်ဖတ်စာနှင့် ပုရာဏ်ကျမ်း

(ကျီးသဲလေးထပ်ဆရာတော်) စာအုပ်များမှ သင့်လျော်ရာ၊ ဆီလျော်ရာ ဇာတ်နိပါတ် ပုံဝတ္ထုများကို ထုတ်နုတ်၍ ကျွန်တော်၏စကားပြေဖြင့် ရေးသားတင်ပြခြင်း ပြုပါသည်။

ဤပုံပြင်များကို ရေးသားရာ၌ လည်းကောင်း၊ ဤစာအုပ်ကို ထုတ်ဝေရာ၌လည်းကောင်း ကူညီကြသော မြတ်မင်္ဂလာ စာစောင်မှ ဆရာ မောင်ရွှန်းသစ်၊ ဆရာ–သမိန်ဆောင်း၊ ဆရာ–ဦးဝင်း (သ–စ–အ ဓမ္မာစရိယ)၊ ဆရာ–ဦးကြည်အောင် (မူလဓမ္မာစရိယ)နှင့် မင်္ဂလာမောင်မယ် ရုပ်စုံ စာစောင်မှ ဆရာ–ဦးတင့်ဆွေ(ဘီ–အေ)၊ ဆရာ–ဦးအုန်းဆော် (ဘီ–အက်စ်စီ)၊ ဆရာ–ဦးအုန်းရွှေ (ဘီ–အေ) တို့ကို ကျေးဇူးအထူးတင်ရှိပါသည်။ ထို့ပြင် သရုပ်ဖော်ပုံများကို ရေးဆွဲပေးသော ပန်းချီ–ဦးစိန်၊ ပန်းချီ–ဦးစန်းလှိုင်၊ ပန်းချီ–သိန်းရွှေကြည်တို့ကိုလည်း အထူးကျေးဇူး တင်ရှိပါသည်။ တစ်အုပ်လုံး အော့ဖ်ဆက်ဖြင့် ရိုက်နှိပ်ပေးသူ ဝင်းဝင်းမြတ် အော့ဖ်ဆက် မန်နေဂျာ ဦးသက်ဝင်း(ဘီ–အက်စ်စီ)နှင့် အဖွဲ့သားများကို လည်းကောင်း၊ ကွန်ပျူတာဖြင့် စာစီပေးသော 'ရွှေမင်းသမီး ကွန်ပျူတာ'မှ မဆွေဇင်ဦး၊ မဆွေယုနွယ် ညီအစ်မတို့ကို လည်းကောင်း အထူး ကျေးဇူးတင်ကြောင်း ဖော်ပြအပ်ပါသည်။

မင်းယုဝေ

၁–၁–၉၂

# မာတိကာ

မာတိကာ ပြီး၏။

# ၃၈-ဖြာ မင်္ဂလာတရားတော်
## 38 Mangalas (Welfares)

၁။ လူဆိုး လူမိုက်ကို မမှီဝဲ မပေါင်းသင်းခြင်း။

1. Not to associate with fools.

၂။ ပညာရှိ လူလိမ္မာကို မှီဝဲ ပေါင်းသင်းခြင်း။

2. To associate with wise.

၃။ ပူဇော်ထိုက်သူတို့ကို ပူဇော်ခြင်း။

3. To honour those-worthy of honour.

၄။ သင့်လျော်သော အရပ်၌ နေခြင်း။

4. To live in suitable region.

၅။ ရှေး၌ ပြုဖူးသော ကောင်းမှုအထူး ရှိခြင်း။

5. To have accumulated merits of the past.

၆။ မိမိ၏ ကိုယ်စိတ်နှစ်ပါးကို စောင့်ထိန်းခြင်း။

6. To be rightly concentrated on oneself.

၇။ အကြား အမြင် များခြင်း။

7. To have immensity of knowledge.

၈။ စက်မှုလက်မှု အတတ်တို့ကို တတ်မြောက်ခြင်း။

8. To acquire skill in sciences.

၉။ လူ့ကျင့်ဝတ်ကို ကောင်းစွာသင်ကြား နားလည်ခြင်း။

9. To be well-trained in discipline.

၁၀။ အပြောအဆို ချိုသာယဉ်ကျေးခြင်း။

10. To have pleasant speech.

၁၁။ အမိအဖတို့ကို လုပ်ကျွေးပြုစုခြင်း။

11. To serve one's actions.

၁၂။ ဇနီးနှင့် သားသမီးတို့ကို လုပ်ကျွေးပြုစုခြင်း။

12. To look after one's family.

၁၃။ ရှုပ်ထွေးမှုကင်းလျက် စနစ်တကျ ကြိုးစားစူးစိုက် လုပ်ကိုင်ခြင်း။

13. To be peaceful in one's action.

၁၄။ စွန့်ကြဲပေးကမ်း လှူဒါန်းခြင်း။

14. To donate generously.

၁၅။ ကောင်းသော အကျင့်တရားကို ကျင့်ခြင်း။

15. To live the life of Dhamma.

၁၆။ ဆွေမျိုးတို့ကို ထောက်ပံ့ကူညီခြင်း။

16. To help one's relations.

၁၇။ အပြစ်ကင်းသော အလုပ်ကို လုပ်ကိုင်ခြင်း။

17. To abstain from immoral livelihood.

၁၈။ မကောင်းမှုကို စိတ်ဖြင့်ရှောင်ခြင်း။

18. To abstain from evil (mental).

၁၉။ မကောင်းမှုကို ကိုယ်၊ နှုတ်ဖြင့် ရှောင်ခြင်း။

19. To abstain from evil (physical).

၂၀။ မူးယစ်သေစာ မသောက်စားခြင်း။

20. To abstain from intoxicants.

၂၁။ ကုသိုလ်တရားတို့၌ မမေ့မလျော့ခြင်း။

21. To practice Dhamma deligently.

၂၂။ ရိုသေလေးစားထိုက်သူကို ရိုသေလေးစားခြင်း။
22. To be respectful.

၂၃။ မိမိကိုယ်ကို နှိမ့်ချခြင်း။
23. To be humble.

၂၄။ တင်းတိမ်ရောင့်ရဲခြင်း။
24. To be content.

၂၅။ သူ့ကျေးဇူးကို သိခြင်း။
25. To be grateful.

၂၆။ သင့်လျော်သောအခါ တရားနာခြင်း။
26. To listen Dhamma at appropriate time.

၂၇။ သည်းခံခြင်း။
27. To be tolerant.

၂၈။ ဆိုဆုံးမလွယ်သူ ဖြစ်ခြင်း။
28. To be obedient.

၂၉။ ရဟန်းသူမြတ်တို့ကို ဖူးမြော်ခြင်း။
29. To see saintly people.

၃၀။ သင့်လျော်သောအခါ၌ တရားစကားဆွေးနွေးမေးမြန်းခြင်း။
30. To discuss Dhamma at appropriate times.

၃၁။ မြိုးခြံသော အကျင့်ကို ကျင့်ခြင်း။
31. To have asectic practices.

၃၂။ မြတ်သော အကျင့်ကို ကျင့်ခြင်း။
32. To observe celibacy.

၃၃။ သစ္စာလေးပါး တရားကို သိမြင်ခြင်း။
33. To observe Noble Truths.

၃၄။ နိဗ္ဗာန်ကို မျက်မှောက်ပြုရခြင်း။

34. To realize Nibbana.

၃၅။ လောကဓံတရားနှင့် တွေ့သောအခါ စိတ်မတုန်လှုပ်ခြင်း။

35. To remain equanimous while coming in contact with visicitudes of life.

၃၆။ ပျက်စီးခြင်း၊ ဆင်းရဲဒုက္ခဖြစ်ခြင်းနှင့် တွေ့ကြုံရသောအခါ စိုးရိမ်ပူဆွေးမှု မရှိခြင်း။

36. To remain free from sorrow.

၃၇။ လိုချင်တပ်မက်ခြင်း ၊ ရာဂ စသော မြူအညစ်အကြေး မရှိခြင်း။

37. To remain free from impurity.

၃၈။ စိတ်ကို ပူပန်စေသော ကိလေသာမှ လွတ်ကင်းရာ ဘေး မရှိခြင်း ။

38. To remain free from insecurity.



# သရက်ပင်နှင့် ခွေးတောက်ပင်



၁။ အသေဝနာ စ ဗာလာနံ၊
ဧတံ မင်္ဂလ မုတ္တမံ။
လူမိုက်တို့နှင့် မပေါင်းဖော်ခြင်းသည်
မြတ်သော မင်္ဂလာ မည်၏။

**နမော တဿ ဘဂဝတော အရဟတော သမ္မာသမ္ဗုဒ္ဓဿ။**

# သရက်ပင်နှင့်ခွေးတောက်ပင်

ရှေးသရောအခါ ဗာရာဏသီပြည်တွင် ဒဓိဝါဟနမင်း စိုးစံသည်။ ထိုမင်းတွင် ပညာဉာဏ်နှင့် အထူးပြည့်စုံသော ပညာရှိ အမတ်တစ်ဦး ရှိသည်။

တစ်နေ့သောအခါ မင်းသည် မြစ်၏ထက်အောက်တွင် ကွန်ကို ထားစေ၍ ရေကစား၏။ ထိုစဉ် ကဏ္ဏမုဏ္ဏအိုင်ဘေးတွင် ပေါက်သော သရက်ပင်မှ သရက်သီးမှည့်တစ်လုံးသည် အိုင်တွင်းသို့ ကြွေကျရာမှ မြစ်ထဲသို့ ရောက်လာသည်။ အစဉ်တစိုက် မျောပါလာရာ ကွန်၌ ငြိလေသည်။

မင်းချစ်းတို့သည် ကွန်ကို သိမ်းယူသောအခါ ထိုသရက်သီးကို တွေ့သည်။ ရွှေရောင်အဆင်းရှိသဖြင့် မင်းကိုဆက်သသည်။ မင်းသည် ထိုသရက်သီးကို သုံးဆောင်ကြည့်ရာ ချိုမြိန်၍ ထူးခြားကောင်းမွန်သော အနံ့အရသာနှင့် ပြည့်စုံသည်ကို သိရလေသည်။ ထို့ကြောင့် အစေ့ကို မိမိ့ဥယျာဉ်တော်၌ စိုက်ပျိုးစေသည်။ အပင်ပေါက် လာသောအခါ နို့ရည်များဖြင့် သွန်းလောင်းစေသည်။

သုံးနှစ်ကြာသောအခါ သရက်သီးများ သီးလာသည်။ မင်းသည် သုံးဆောင်ကြည့်သည်။ မူလ သရက်သီးကဲ့သို့ပင် ချိုမြိန်၍ ထူးကဲသော အနံ့အရသာနှင့် ပြည့်စုံသည်ကို သိရှိရလေသည်။

မင်းသည် သရက်သီးများကို ကိုယ်တိုင်လည်း သုံးဆောင်သည်။ အချို့ကို အခြားသော မင်းများထံသို့လည်း လက်ဆောင်ပေးသည်။ သို့ရာတွင် မျိုးပွားမည်စိုးသောကြောင့် လက်ဆောင်မပေးမီ သရက်သီး၏ အညွန့်အညှောက် ဖြစ်မည့် နေရာကို ဖားရိုးစူးဖြင့် ထိုးပြီးမှ ပေးပို့သည်။

သရက်သီး လက်ဆောင်ရသော မင်းတို့သည် သရက်သီးကို သုံးဆောင်ကြည့်ကြသည်။ ထူးကဲသော အနံ့အရသာနှင့် ပြည့်စုံသောကြောင့် လွန်စွာနှစ်သက်ကြသည်။ ထို့ကြောင့် အစေ့ကို စိုက်စေသည်။ သို့ရာတွင် အပင်ပေါက်မလာချေ။

အကြောင်းရင်းကို စုံစမ်းသောအခါ ဒဓိဝါဟနမင်း၏ အစီအမံကို သိရှိကြသည်။ သည်တွင် မင်းတစ်ပါးသည် စိုက်ပျိုးမှု၌ ကျွမ်းကျင်လိမ္မာသော ဥယျာဉ်မှူးတစ်ဦးကို ခေါ်သည်။

"အမောင်၊ ဗာရာဏသီပြည်သို့သွားလေ။ ဒဓိဝါဟနမင်း၏ သရက်သီးတို့ ခါး၍ အရသာပျက်အောင်ပြုချေ" ဟူ၍ စေလွှတ်လိုက်သည်။ ဆုလာဘ်အဖြစ် အသပြာတစ်ထောင်ကိုလည်း ပေးလိုက်သည်။

ထိုဥယျာဉ်မှူးသည် ဒဓိဝါဟနမင်းထံ ချဉ်းကပ်သည်။ စိုက်ပျိုးမှုတွင် မိမိမည်မျှ ကျွမ်းကျင် လိမ္မာကြောင်း တင်လျှောက်သည်။ မင်းသည် နှစ်သက်သဘောကျသဖြင့် ထိုဥယျာဉ်မှူးကို မိမိ၏ ဥယျာဉ်မှူးနှင့်အတူ ဥယျာဉ်တော်ကို ပြုစုလုပ်ဆောင်စေသည်။

ဥယျာဉ်မှူးသစ်သည် ရောက်သည့်နေ့မှစ၍ လက်ရှိ ဥယျာဉ်မှူးထက် သာအောင် ကြိုးစား လုပ်ဆောင်ပြသည်။ သူသည် ဥယျာဉ်တော်ကို ယခင်ကထက် သာယာအောင် ပြုသည်။ ပန်းတို့ကို အခါရာသီ မဟုတ်ဘဲ ပွင့်အောင် ပြုသည်။ သစ်ပင် တို့ကို အခါရာသီ မဟုတ်ဘဲ သီးအောင် ပြုသည်။

မင်းသည် ဥယျာဉ်မှူးသစ်ကို အလွန်နှစ်သက် သဘောကျသွားသဖြင့် ဥယျာဉ်မှူးဟောင်းကို နှင်ထုတ်လိုက်သည်။ ဥယျာဉ်မှူးသစ်ကိုသာလျှင် ဥယျာဉ်တော် တစ်ခုလုံးကို စီမံလုပ်ဆောင်စေသည်။

ဥယျာဉ်တော် တစ်ခုလုံး မိမိလက်တွင်းသို့ ရောက်သည်နှင့် တပြိုင်နက် အကြံသမား ဥယျာဉ်မှူးသစ်သည် သရက်ပင်ကို ဝိုင်းရံ၍ တမာပင်နှင့် ခွေးတောက်ပင်တို့ကို စိုက်လေ၏။

မကြာမီပင် တမာနှင့်ခွေးတောက်ပင်တို့၏ အမြစ်အခက်တို့သည် သရက်ပင်၏ အမြစ်အခက်တို့နှင့် ရောယှက်လေတော့သည်။ ထိုအခါ ယခင်က ချိုလှသော သရက်သီးသည် မချိုတော့ပေ။ မချိုရုံမျှမက တမာ ခွေးတောက်ကဲ့သို့ပင် ခါးလေတော့သည်။ သည်တွင် ဥယျာဉ်မှူးသည်လည်း ထွက်ပြေးသွားလေတော့သည်။

ဒဓိဝါဟနမင်းသည် သရက်သီးများ ခါးလာရသော အကြောင်းရင်းကို ပညာရှိအမတ်အား စုံစမ်းစေသည်။ ပညာရှိအမတ်လည်း ဥယျာဉ်သို့သွား၍ ကြည့်ရှုစုံစမ်းသည်။ ထို့နောက် မင်းအား "အရှင်၊ သရက်ပင်မှာ တမာခွေးတောက်ပင်တို့နှင့် ရောယှက်နေသောကြောင့် သရက်သီးများသည် ခါးသောအရသာသို့ ပြောင်းခဲ့ရပါသည်။ မူလအတိုင်း ချိုမြိန်သောအရသာနှင့် ပြည့်စုံစေလိုပါက တမာခွေးတောက်တို့ကို ဖယ်ရှားပစ်ရပါမည်။ မြေဩဇာသစ်၊ မြေဩဇာကောင်းတို့ကို ကျွေးရပါမည်။ နို့ရည်၊ သကာရည်တို့ဖြင့် သွန်းလောင်းရပါမည်"ဟု လျှောက်၏။

မင်းလည်း ဥယျာဉ်မှူးဟောင်းကို ပြန်ခေါ်သည်။ ပညာရှိအမတ်ဆိုတိုင်း ပြုစေသည်။

ဥယျာဉ်မှူးဟောင်းသည် ရှေးဦးစွာ တမာခွေးတောက်ပင်တို့ကို အမြစ်မှနုတ်၍ ဖယ်ရှားပစ်သည်။ ထို့နောက် သရက်ပင်ကို မြေဩ

ဓာသစ် မြေဩဇာကောင်းများ ကျွေးသည်။ နို့ရည်၊ သကာရည်၊ နံ့သာရည် စသည်တို့ဖြင့် သွန်းလောင်းပေးသည်။

သို့ဖြင့် နောက်ထပ်၍ သရက်သီးများ သီးလာသောအခါ သရက်သီး တို့သည် မူလအတိုင်းပင် ချိုမြိန်၍ ထူးကဲသော အနံ့ အရသာနှင့် ပြည့်စုံနေလေတော့သည်။

ထိုအခါ ပညာရှိတို့က အသက်မဲ့သော အရာပင်လျှင် မကောင်းသော အပေါင်းအဖော်နှင့် ပေါင်းဖော်ရ၍ ပျက်စီးခဲ့ရသေးသည်။ အသက်ရှိသော သတ္တဝါတို့ကား မကောင်းသော အပေါင်းအဖော်နှင့် ပေါင်းဖော်သော် အဘယ် ဆိုဖွယ်ရာ ရှိအံ့နည်း" ဟူ၍ ဆိုကြလေသတည်း။ ။



# ခေါင်းဆောင်နှစ်ဦး



၂။ ပဏ္ဍိတာနဉ္စ သေဝနာ၊
ဧတံ မင်္ဂလ'မုတ္တမံ။
ပညာရှိကို ဆည်းကပ်ခြင်းသည်
မြတ်သော မင်္ဂလာ မည်၏။

# ခေါင်းဆောင်နှစ်ဦး

တစ်ရံရောအခါ ဗာရာဏသီမြည် အနီး၌ လက်သမားရွာကြီး တစ်ရွာရှိသည်။ ထိုရွာတွင် လက်သမား တစ်ထောင် နေထိုင်သည်။ သူတို့သည် ထိုရွာ၌ ကြာမြင့်စွာ နေထိုင်လာခဲ့ရာမှ လုပ်ငန်းများ မအောင်မြင် ဖြစ်လာကြသည်။ ကြွေးမြီများ ထူလာကြသည်။ သို့ဖြင့် ထိုရွာ၌ ဆက်လက် နေထိုင်ရန် မသင့်တော်သောကြောင့် ဇရာမ လှေကြီးတစ်စင်း ပြုလုပ်ကာ မိသားစုများကိုပါ တင်ဆောင်၍ ရေလမ်း ခရီးဖြင့် ထွက်ခွာလာခဲ့ကြသည်။

သူတို့သည် သမုဒ္ဒရာ အလယ်သို့ ရောက်သောအခါ ကျွန်းငယ် တစ်ခုကို တွေ့ရှိကြသည်။ ထိုကျွန်းငယ်မှာ ဆန်ရေစပါးနှင့် သီးနှံမျိုးစုံ ပေါများသည်။ ထိုကျွန်းတွင် သင်္ဘောပျက်သဖြင့် ဦးစွာ ရောက်နှင့် နေသော ယောကျ်ား တစ်ယောက်ကို သူတို့တွေ့သည်။ ထိုသူက–

"အဆွေတို့၊ သည်ကျွန်းမှာ အစားအစာ ပေါများသည်။ ဘေး အန္တရာယ်လည်း မရှိ။ သို့ရာတွင် သည်ကျွန်းကို နတ်များ စောင့်သည်။ နတ်တို့သည် လူသားတို့၏ ကျင်ကြီး ၊ ကျင်ငယ်တို့ကို အလွန်စက်ဆုပ် ကြသည်။ အဆွေတို့ ဤကျွန်းတွင် နေလိုပါက ကျင်ကြီး၊ ကျင်ငယ် များကို အရမ်းမစွန့်ပါနှင့်။ သဲများကို ယက်၍ တွင်းပြုပြီးမှ စွန့်ပါ။ ထို့နောက် သဲဖြင့် ပြန်၍ ဖုံးအုပ်ပါ" ဟူ၍ သတိပေးပြောဆိုသည်။

လက်သမားတို့သည် ထိုကျွန်းမှာပင် အခြေချနေထိုင်ရန် ဆုံးဖြတ် လိုက်ကြသည်။ လက်သမား တစ်ထောင်တွင် ခေါင်းဆောင် အကြီး အမှူး နှစ်ယောက်ရှိသည်။ ခေါင်းဆောင် တစ်ဦးက လက်သမားငါးရာ

ကို အုပ်ချုပ်၍ ကျန်ခေါင်းဆောင် တစ်ဦးက ကျန်လက်သမားငါးရာကို အုပ်ချုပ်သည်။ ခေါင်းဆောင် နှစ်ဦးတွင် တစ်ဦးသည် ပညာရှိသည်။ တစ်ဦးကား ပညာမဲ့သည်။

လက်သမားများသည် ကျွန်းပေါ်တွင် အခြေချ နေလာရာမှ အတန်ကြာသော် ပညာမဲ့ခေါင်းဆောင်နှင့် ဝယ်သားများသည် ကြံရည်ကို သေအရက်ပြု၍ သောက်စားမူးယစ်ကြသည်။ သီဆို ကခုန်ကြသည်။ ထို့နောက် ကျင်ကြီးကျင်ငယ်တို့ကို စည်းကမ်းတကျ မစွန့်ကြတော့။ ထင်သလို စွန့်ကြသည်။ ပြန်၍လည်း ဖုံးအုပ်ခြင်း မပြုကြ၊

ထိုအခါ ကျွန်းစောင့်နတ်တို့သည် လွန်စွာ အမျက်ထွက်ကြသည်၊ '၁၅-ရက်လွန်မြောက်လျှင် သမုဒ္ဒရာရေကို တက်စေ၍ ကျွန်းဆေးအံ့၊ လူအများကို သေစေအံ့'ဟု စီစဉ်ကြသည်။

ထိုနတ်တို့တွင် ကြင်နာတတ်သော နတ်တစ်ပါး ပါသည်။ ထိုနတ်က လူအများကို မပျက်စီးစေလို။ ကျွန်းနေ လက်သမားများထံ လာရောက်၍ သေးဖြစ်မည့် အကြောင်းစုံကို ပြောပြသည်။ ၁၅-ရက်မတိုင်မီ ထွက်ပြေးကြရန်လည်း နှိုးဆော်သည်။

ထို့နောက် ရက်စက်သော နတ်တစ်ပါး ရောက်လာပြန်သည်၊ ထိုနတ်က လက်သမားတို့အား "ပဌမ ပြောသွားသော နတ်သားသည် သင်တို့ကို မလိုမုန်းထား၍ ပြောဆိုခြင်း ဖြစ်သည်။ ဤကျွန်းတွင်သာ နေကြပါ။ တစ်စုံတစ်ရာ ဘေးမရှိပါ"ဟု ပြောဆိုပြန်သည်။

ဤတွင် ပညာရှိခေါင်းဆောင်က စဉ်းစားချင့်ချိန်ပြီးလျှင် "အဆွေတို့၊ လှေတို့ကို အသင့် စီရင်၍ ထားကြမှ သင့်မည်။ ပဌမနတ်၏ စကား မှန်သော် ရေတက်သောအခါ လှေဖြင့် ထွက်ခွာကြမည်၊ ဒုတိယနတ်၏စကား မှန်သော် လှေတို့ကို သင့်တော်ရာ၌ ထား၍

ဤကျွန်းတွင်ပင် ဆက်လက် နေကြမည်”ဟု အဖော် လက်သမားတို့ကို ဆို၏။

ထိုစကားကို ပညာမဲ့ခေါင်းဆောင်က လက်မခံ။ “အဆွေ၊ သင်သည် အလုပ်ပို လုပ်လိုသူ ဖြစ်သည်။ ပထမ နတ်သားသည် ငါတို့ကို မုန်း၍ ဆိုခြင်းဖြစ်သည်။ ဒုတိယ နတ်သားသည်ကား ချစ်၍ ဆိုခြင်းဖြစ်သည်။ ဤသာယာသော ကျွန်းကို ငါတို့ အဘယ့်ကြောင့် စွန့်ရအံ့နည်း။ လှေပြုလုပ်ရန် မလို”ဟု ဆို၏။

ဆိုသည့်အတိုင်းလည်း မိမိ၏ ငယ်သား ငါးရာတို့ကို လှေမပြုလုပ်ရန် ညွှန်ကြား၏။ သူ၏ ငယ်သားများကလည်း သူတို့ဆရာစကားကို နားထောင်ကာ ဘာမျှမလုပ်။ သောက်စား မူးယစ်၍သာ နေကြလေ၏။

ပညာရှိ ခေါင်းဆောင်ကမူ မိမိ၏ငယ်သားများကို လှေပြုလုပ်စေသည်။ စားရေရိက္ခာ အပြည့်အစုံ ရှာဖွေ၍ လှေပေါ်သို့ တင်စေသည်။ ငယ်သားများကလည်း ပညာရှိ ခေါင်းဆောင်၏ စကားကို နာယူကာ အစစအရာရာ အသင့်ပြုလုပ် ထားကြသည်။

၁၅–ရက် စေ့သော် ကြင်နာတတ်သော ပထမနတ် ပြောသည့်အတိုင်းပင် သမုဒ္ဒရာရေတို့သည် ကျွန်းပေါ်သို့ တရိပ်ရိပ် တက်လာသည်။ ဒူးလယ်ခန့် ရောက်သောအခါ ပညာရှိ ခေါင်းဆောင်နှင့် ငယ်သားငါးရာတို့သည် လှေကြီးပေါ်သို့ တက်၍ လှော်ခတ် ထွက်ခွာသွားကြလေသည်။

ပညာမဲ့ ခေါင်းဆောင်နှင့် ငယ်သားများမှုကား မမှုကြ။ “ကျွန်းဆေးခြင်းမျှသာ ဖြစ်သည်။ ရေတို့သည် ဒူးလယ် အထိသာ ရောက်နိုင်သည်။ ထို့ထက်တိုး၍ မရောက်နိုင်”ဟု ဆိုကာ အေးဆေးစွာ နေကြသည်။ သို့ရာတွင် သူတို့ ထင်သကဲ့သို့ မဟုတ်။ သမုဒ္ဒရာရေသည်

ခါးလယ်မှ ပခုံး ၊ ပခုံးမှ ဦးခေါင်း ၊ ဦးခေါင်းမှ ထန်းတစ်ဖျား တိုင်အောင် တက်လေတော့သည်။ သည့်တွင် ပညာမဲ့ ခေါင်းဆောင်နှင့်တကွ ထိုသူကို ဆည်းကပ်သူ ငယ်သားငါးရာစလုံး ရေနစ်သေဆုံး သွားကြလေ၏။ ။



## မင်္ဂလာပုံပြင် – ၃

# ၂၁ သူဆင်းရဲပုဏ္ဏ



၃။ ပူဇာစ ပူဇနေယျာနံ ၊
ဧတံ မင်္ဂလ မုတ္တမံ။
ပူဇော်ထိုက်သူကို ပူဇော်ခြင်းသည်
မြတ်သော မင်္ဂလာ မည်၏။

# သူဆင်းရဲ ပုဏ္ဏ

တစ်ရံရောအခါ ရာဇဂြိုဟ်ပြည်၌ သူဌေးတစ်ဦး၏ လယ်တွင် သူရင်းငှားပြု၍ နေရသော သူဆင်းရဲတစ်ယောက် ရှိသည်။ 'ပုဏ္ဏ'ဟု အမည်တွင်သည်။

ပုဏ္ဏသည် ဇနီးဘာဒရီတာ၊ သမီးဥတ္တရာတို့နှင့်အတူ အရှင်သူဌေး၏ အိမ်နောက်ဖေး၌ မှီခိုနေထိုင်၏။

တစ်နေ့သ၌ နက္ခတ်ပွဲသဘင်နေ့ ကျရောက်ရာ မြို့သူမြို့သားများသည် ပျော်ရွှင်စွာ ဆင်နွှဲရန် ပြင်ဆင်နေကြသည်။ ထိုအခါ သူဌေးက ပုဏ္ဏကို ခေါ်၍ မေးမြန်းသည်။

"အချင်း ပုဏ္ဏ၊ သင်တို့ ယနေ့ နက္ခတ်သဘင် ပျော်ရွှင်မြူးထူးမည်လော။ သို့မဟုတ် လုပ်မြဲ၊ ယူမြဲတိုင်းသော အခဖြင့် လယ်ထွန်မည်လော။"

"အရှင်သူဌေး၊ အကျွန်ုပ်တို့မှာ ဥစ္စာစည်းစိမ် ရှိသော သူတို့ကို မတုပနိုင်ပါ။ ယနေ့ အလုပ်မလုပ်ပါက နက်ဖြန်တွင် စားစရာ မရှိပါ။ သို့ဖြစ်၍ နက္ခတ်သဘင်ကို မဆင်နွှဲလိုပါ။ ထွန်နှင့်နွားကိုသာ ပေးပါ။ ယခုပင် လယ်ထွန်သွားပါမည်။"

သူဌေးလည်း ပုဏ္ဏအား ပေးမြဲတိုင်းသော အခကြေးငွေကိုပေး၍ ထွန်နှင့်နွားတို့ကို ပေးအပ်၏။

ပုဏ္ဏသည် ဇနီးဘာဒရီတာအား "ရှင်မ၊ ယနေ့ ငါ လယ်ကိုဆင်း၍ များစွာပြီးအောင် ထွန်မည်။ ထမင်းကို အခါတိုင်းထက် ပိုချက်၍

ငါ့ထံ လာပို့ပါ”ဟု မှာကြား၏။ ထို့နောက် လယ်သို့ဆင်း၍ ထွန်လေသည်။

ထိုအခိုက် ရဟန္တာ အရှင်သာရိပုတ္တရာ မထေရ်မြတ်သည် ပုဏ္ဏ လယ်ထွန်ရာ အနီးရှိ လယ်ကန်သင်းပေါ်သို့ ကြွလာပြီး ရပ်တော်မူသည်။

ပုဏ္ဏသည် မထေရ်မြတ်ကို မြင်သော် ကြည်လင်ရွှင်ပျ သွားသည်။ 'အရှင်မြတ်သည် မျက်နှာသစ်ရေနှင့် သွားတိုက်ရန် တံပူကို အလိုရှိ၍ ရပ်တော်မူလာဟန် တူသည်'ဟူ၍ တွေးဆကာ လယ်ထွန်ခြင်းကို ခေတ္တရပ်နားသည်။ မထေရ်မြတ်အနီးသို့ ချဉ်းကပ်၍ ရိုသေစွာ ရှိခိုးသည်။

မထေရ်မြတ်ကလည်း ပါလာသော သပိတ်နှင့် ရေစစ်ကို ပုဏ္ဏ လက်သို့ အပ်၏။ ပုဏ္ဏလည်း မျက်နှာသစ်ရေကို ကောင်းစွာစစ်၍ ဆက်ကပ်၏။ တံပူကိုလည်း ကောင်းစွာ ပြုလုပ်၍လှူ၏။

မထေရ်မြတ်သည် တံပူဖြင့် သွားတိုက်၍ မျက်နှာသစ်ရေဖြင့် မျက်နှာသစ်တော်မူသည်။

ထို့နောက် ဆက်လက်၍ ကြွသွားတော်မူသည်။

ထိုအချိန်တွင် ဘာရိတာသည် ထမင်းဟင်းတို့ကို ချက်ပြီးလျှင် ပုဏ္ဏထံ လာပို့သည်။ ဘာရိတာသည် လမ်းခရီးတွင် အရှင်သာရိပုတ္တရာ မထေရ်မြတ်ကို တွေ့မြင်လေသည်။

ဘာရိတာက 'ငါသည် တစ်ခါတစ်ရံတွင် လှူဖွယ်ဝတ္ထု ရှိသော်လည်း အရှင်မြတ်ကို မတွေ့မြင်။ တစ်ခါတစ်ရံ အရှင်မြတ်ကို တွေ့မြင်သော်လည်း ငါ့၌ လှူဖွယ်ဝတ္ထုမရှိ။ ယခုမူ အရှင်မြတ်ကိုလည်း တွေ့မြင်ပြီ။ ငါ့၌လည်း လှူဖွယ်ဝတ္ထု ပါလာပြီ'ဟူ၍ ကြံစည်ကာ ပါလာသော ထမင်းတို့ကို မထေရ်မြတ်အား လှူဒါန်းလေသည်။

မထေရ်မြတ်လည်း ထမင်းဟင်း တစ်ဝက်ခန့်ရလျှင် 'တန်ပြီ'ဟု ဆိုဟန်ဖြင့် သပိတ်ကို ဖုံးအုပ်လိုက်သည်။ ထိုအခါ ဘာရီတာက "အရှင်ဘုရား၊ သည်ဆွမ်း၊ သည်ဆွမ်းဟင်းတို့ကား တစ်ယောက်စာမျှသာ ဖြစ်ပါသည်။ ချန်ထား၍ မလျော့ပါ။ လောက်အောင် အလှူခံတော်မူပါ"ဟု ဆို၍ ထမင်းဟင်း အားလုံးကို လောင်းလှူလိုက်လေသည်။

ထို့နောက် ဘာရီတာသည် အိမ်သို့ တစ်ဖန်ပြန်၍ ထမင်းဟင်းတို့ကို ချက်၏။ ပြီးမှ ပုဏ္ဏထံ ထမင်းပို့ရန် ပြန်လာလေသည်။

အတန်ကြာသော အခါတွင်မှ ဘာရီတာ ပေါ်လာလေသည်။ ဘာရီတာသည် မိမိအား ပုဏ္ဏ မျှော်နေသည်ကို လှမ်း၍မြင်ရသည်။ ထိုအခါ–

'ငါ့ ချစ်လင်သည် ဆာလောင်လှသဖြင့် ငါ့ကို မျှော်နေရှာသည်။ အကယ်၍ နောက်ကျသဖြင့် အမျက်ထွက်လျက် ငါ့ကို မောင်းမဲရိုက်နှက်ပါက ငါပြုခဲ့သော ကောင်းမှု အလှူသည် အကျိုးမရှိ ဖြစ်တော့မည်' ဟု ကြံစည်ကာ လှမ်း၍ပြောဆိုသည်။

"အမောင်၊ စိတ်ကို ကြည်ဖြူစွာထားပါ။ ကျွန်မ ပြုခဲ့သော ကောင်းမှုကို အကျိုးမဲ့ မပြုပါနှင့်။ နံနက် စောစောကပင် ကျွန်မ ထမင်းလာပို့ပါသည်။ လမ်းခရီးတွင် အရှင်သာရိပုတ္တရာ မထေရ်မြတ်ကို ဖူးမြင်ရသဖြင့် ထမင်းဟင်းတို့ကို အရှင်မြတ်အား လှူဒါန်းလိုက်ပါသည်။ ထို့နောက်မှ တစ်ဖန် အိမ်သို့ပြန်၍ ထမင်းဟင်း ချက်ပြုတ်၍ လာရပါသဖြင့် ကြန့်ကြာနေရပါသည်။ ကျွန်မ၏ ဒါနထူးကို ဝမ်းမြောက်ပါလော့။"

ထိုစကားကို ကြားသော် ပုဏ္ဏလည်း ဝမ်းမြောက်အားရ ဖြစ်သွားပေသည်။

"ရှင်မ၊ သင့်အလှူအတွက် ငါသည့် ဝမ်းမြောက် သာခုခေါ်ပါသည်။ ငါသည်လည်း နံနက်ကပင် အရှင်သာရိပုတ္တရာ မထေရ်မြတ်ကြီးအား မျက်နှာသစ်ရေနှင့် တံပူတို့ကို ကပ်လှူလိုက်ပါ သေးသည်။ ထိုကောင်းမှုကို သင်လည်း အမျှယူပါလော့။"

ထို့နောက် ပုဏ္ဏာတို့ ဇနီးမောင်နှံသည် ဝမ်းမြောက်စွာပင် ထမင်းဟင်းကို ဝေမျှစားကြသည်။ စားပြီးသော် ပုဏ္ဏာသည် ပင်ပန်းလှသဖြင့် ဘာရိတာ၏ ပေါင်ကို ခေါင်းအုံး၍ ခေတ္တအိပ်လေသည်။

ထိုစဉ် ရဟန္တာ အရှင်သာရိပုတ္တရာ မထေရ်မြတ်ကို သဒ္ဓါကြည်ဖြူစွာ ပေးလှူရသော အကျိုးကြောင့် ပုဏ္ဏာ ထွန်ခဲ့သော ထွန်စိုင်ထွန်ခဲအားလုံးသည် ရွှေတုံးများအဖြစ်သို့ ကူးပြောင်းသွားလေသည်။

ပုဏ္ဏာသည် အိပ်ရာမှနိုး၍ ရွှေတို့ကိုမြင်သောအခါ မိမိ၏မျက်စိကို မယုံနိုင်အောင် ရှိနေလေသည်။

"ရှင်မ၊ ထ၍ ကြည့်စမ်းပါဦးလော့။ ငါ မောပန်းစွာဖြင့် ထမင်းစားပြီး အိပ်စက်ခဲ့၍ မျက်စိလည်ကာ အမြင်မှားနေသည် ထင်သည်။ ငါထွန်ခဲ့သော ထွန်စိုင်ထွန်ခဲ အားလုံးသည် ရွှေဖြစ်လျက် တဝင်းဝင်းတောက်ပနေပေပြီ။"

"အမောင်၊ ကျွန်မလည်း ရွှေတုံးရွှေခဲတို့ကိုသာ မြင်နေရပါသည်။"

"ရှင်မ၊ အရှင်သာရိပုတ္တရာ မထေရ်မြတ်ကို ဖြူစင်သော စေတနာဖြင့် လှူခဲ့သော ကောင်းမှုသည် ယခုပင် "အကျိုးပေးလေပြီ" ဟူ၍ ပုဏ္ဏာက ဝမ်းမြောက်အားရ ပြောဆိုလေသည်။

သူတို့သည် စိုင်ပင်ပြီးလျှင် ထမင်းခွက်ထဲသို့ ရွှေအချို့ ထည့်ယူသည်။ ထို့နောက် ဘုရင့်ရှေ့တော်မှောက်သို့ ဝင်ကာ ရွှေများကိုပြလျက် အလုံးစုံ လျှောက်ထားပြီးလျှင်–

"အရှင်မင်းကြီး၊ မင်းချင်းတို့အား များစွာသော လှည်းတို့ဖြင့် စေလွှတ်၍ ရွှေများကို ယူဆောင်တော်မူပါ။"

ဘုရင်လည်း ပုဏ္ဏာဆိုသည့်အတိုင်း စေလွှတ်၏။ မင်းချင်း တို့သည် ရွှေတုံးရွှေခဲတို့ကို တွေ့သော် "ငါတို့ အရှင်မင်းကြီး၏ ဘုန်းတော်ကြောင့် ပေါ်သော ပစ္စည်းတည်း" ဟုဆို၍ ကျုံးယူကြသည်။ ထိုအခါ ရွှေတုံးရွှေခဲတို့သည် လက်တွင်းမှာပင် မြေစိုင်မြေခဲအဖြစ် ပြောင်းသွားလေသည်။

မင်းချင်းတို့သည် ဘုရင့်ထံ ပြန်၍ အကျိုးအကြောင်း လျှောက်ထားသည်။ ဘုရင်က "ပုဏ္ဏ သူဆင်းရဲ၏ ဥစ္စာဆို၍သာ ကျုံးလေ"ဟူ၍ မှာကြားသည်။

မင်းချင်းတို့လည်း ဘုရင် မှာလိုက်သည့်အတိုင်း ပြောဆို၍ ကျုံးသောအခါ ရွှေတို့ကို ရရှိသည်။ ယင်းတို့ကို ယူဆောင်၍ မင်းရင်ပြင်၌ ပုံထားသည်။

ဘုရင်လည်း ပြည်သူပြည်သားတို့ကို ခေါ်ယူစေပြီးလျှင် ရွှေတို့ကို ပြ၍ မေးတော်မူသည်။

"ငါတို့ ရာဇဂြိုဟ်ပြည်ဝယ် မည်သူ၏ အိမ်၌ သည်မျှလောက် များသော ရွှေတို့ ရှိပါသနည်း။"

"အရှင်မင်းကြီး ၊ မည်သူ့ထံတွင်မျှ မရှိပါ။"

"သည်ရွှေတို့ကား ပုဏ္ဏ၏ ရွှေများဖြစ်သည်။ သည်ယနေ့မှစ၍ ပုဏ္ဏကို သူဌေးအရာ ငါပေးတော်မူလိုက်ပြီ။"

ဘုရင်က ဤသို့ဆိုကာ ပုဏ္ဏကို ဗဟုဓနသူဌေးဘွဲ့ ပေးတော်မူသည်။ များစွာသော စည်းစိမ်ဥစ္စာတို့ကိုလည်း ပေးသည်။ သူဌေး ဆောင်းသော ထီးကိုလည်း ပေးသည်။

ပုဏ္ဏက "အရှင်မင်းကြီး၊ ကျွန်တော်မျိုးတို့မှာ သူတစ်ပါးအိမ်၌ နေကြရပါသည်။ ကျွန်တော်မျိုးတို့အတွက် နေထိုင်ရာ အရပ်ကိုလည်း ပေးသနားတော်မူပါ"ဟူ၍ လျှောက်ထားသည်။

သည်တွင် ဘုရင်သည် ပုဏ္ဏအား ရှေးသူဌေးတစ်ဦး နေထိုင်ခဲ့ဖူးသော မြေနေရာဟောင်း တစ်ခုကို ပေးသည်။ ထိုမြေနေရာသည် စွန့်ပစ်ထားသည် ဖြစ်သဖြင့် ချုံနွယ်ပိတ်ပေါင်း အတိ ပြီးနေသည်။ ပုဏ္ဏသည် အိမ်ဆောက်ရန်အတွက် ယင်းတို့ကို ခုတ်ထွင် ရှင်းလင်းစေသည်။ ထိုအခါ တစ်နေရာတွင် အိုးချင်းထိလျက်ရှိသော ရွှေအိုးပေါင်းများစွာကို တွေ့ပြန်သည်။

ပုဏ္ဏသည် ထိုရွှေအိုးများတို့ ဘုရင်အား ဆက်သသည်။ ဘုရင်က သိမ်းပိုက်ခြင်း မပြုပေ။

"အသင် ဗဟုဓနသူဌေးမင်း၏ ကောင်းမှုကြောင့် ရသော ရွှေအိုးတို့ကို ငါမယူလို။ အသင်သာ ယူလော့"ဟု ဆို၍ ပုဏ္ဏကိုပင် ပြန်လည်ပေးအပ်လေသည်။

မကြာမီ ပုဏ္ဏသည် နေရန်အိမ်ကို ဆောက်လုပ်ပြီးသည်။ ပုဏ္ဏ၊ ဇနီးဘာရိတာနှင့် သမီးဥတ္တရာတို့သည် အိမ်တက် မင်္ဂလာနှင့် ထိမ်းမြားမင်္ဂလာကို တစ်ပြိုင်တည်း ပြုလုပ်သည်။ ဘုရား အမှူးရှိသော သံဃာတော်မြတ်တို့ကိုလည်း ၇-ရက်ပတ်လုံး ဆွမ်းဒါနပူဇော်ခြင်း ပြုလေသည်။ ။

မင်္ဂလာမိုးဖြင် – ၄

# သိမ်းငှက်နှင့် ဘီလုံးငှက်



၄။ ပတိရူပ ဒေသဝါသော စ၊
ဧတံ မင်္ဂလ'မုတ္တမံ။
သင့်တင့်လျောက်ပတ်သော အရပ်၌ နေရခြင်းသည်
မြတ်သော မင်္ဂလာ မည်၏။

# သိမ်းငှက်နှင့် ဘီလုံးငှက်

တစ်ရံရောအခါ ဘီလုံးငှက် တစ်ကောင်သည် မိမိနေထိုင်ကျက်စားရာ လယ်ကွင်းပြင်မှ လွန်၍ အခြားအရပ်သို့ သွားရောက်ကျက်စား၏။ ထိုစဉ် သိမ်းငှက် တစ်ကောင်သည် ဘီလုံးငှက်ကို တွေ့မြင်ကာ ထိုးသုတ်သွားလေသည်။

ဘီလုံးငှက်သည် အရွယ်အားဖြင့် လက်တစ်ဝါးခန့်သာ ရှိသည်။ သိမ်းငှက်ကား အရွယ် တစ်တောင်ကျော် ရှိသည်။ အရွယ်ချင်း မယှဉ်သာ။ ခွန်အားချင်း မယှဉ်သာ။ အလွန် ကွာခြားလှသည်။ ထို့ကြောင့် ဘီလုံးငှက်သည် သိမ်းငှက်၏ လက်သို့ အလွယ်တကူ ပါသွားလေသည်။

သို့ပါသွားစဉ် ဘီလုံးငှက်က "ငါ့အရပ်မဟုတ်၍ သိမ်းငှက်၏ ထိုးသုတ်ခြင်းကို ခံရသည်။ ငါ့အရပ်ဖြစ်ပါမူ သိမ်းငှက်သည် ထိုးသုတ်နိုင်မည် မဟုတ်" ဟူ၍ မြည်တမ်းငိုကြွေး၏။

ထိုအခါ သိမ်းငှက်က မခံချင်။

"ဟယ် ဘီလုံးငယ်၊ သင်၏အရပ်ကား အဘယ်နည်း" ဟူ၍ မေးမြန်းသည်။ ဘီလုံးငှက်ကလည်း အားမာန်အပြည့်ဖြင့် ပြန်ပြောသည်။

"ငါ၏အရပ်ကား ထွန်စာခဲရှိရာ လယ်ကွင်းပြင်တည်း။"

"သင်၏အရပ်၌ ရှိသော်လည်း ငါသို့သော ကြီးမား၍ ခွန်အားရှိသူကို သင်အန်တုနိုင်မည်လော။ ငါ့လက်မှ သင်လွတ်နိုင်မည်လော။"

"အန်တုနိုင်ပါသည်။ လွတ်နိုင်ပါသည်။"

"ကောင်းပြီ။ သည်လိုဆိုလျှင် သင့်ကို ယခုငါလွှတ်လိုက်မည်။ သင့်အရပ်သို့ သွား၍ ငါ့ကို ခုခံလော့။"

သိမ်းငှက်က ဤသို့ဆိုကာ ဘီလုံးငှက်ကို လွှတ်လိုက်သည်။ ဘီလုံးငှက်လည်း မိမိကျက်စားရာ လယ်ကွင်းပြင်သို့ ဝမ်းမြောက်ဝမ်းသာ ပျံသွားသည်။ ရောက်သော် မြေစိုင်ခဲကြီး တစ်ခုပေါ်၌ ရပ်လျက်။–

"အို– သိမ်းငှက်ကြီး၊ အသင်စွမ်းလျှင် လာလော့။"

သိမ်းငှက်ကလည်း "ဟယ်– ဘီလုံးငယ်၊ ငါ့လက်မှ သင်လွတ်နိုင်မည်လော"ဟူ၍ ကြုံးဝါးကာ လျင်မြန်စွာ ပျံသန်းလာသည်။ အနီးသို့ ရောက်သည်နှင့်တစ်ပြိုင်နက် အရှိန်ပြင်းစွာပြင့် ပျံဆင်း၍ ဘီလုံးငှက်ကို ထိုးသုတ်လိုက်လေသည်။

ဤတွင် ဘီလုံးငယ်သည် မြေစိုင်ခဲပေါ်မှ ရုတ်တရက်ဆင်း၍ မြေစိုင်ခဲအောက် အကြားသို့ ဝင်နေလိုက်လေသည်။ ထိုအခါ သိမ်းငှက်သည် ဘီလုံးငှက်ကို မသုတ်မိ၊ အရှိန်လည်း မသတ်နိုင်။ မြေစိုင်ခဲကို ရင်ဖြင့် တိုက်မိသွားသည်။ တစ်ခဏတွင်းပင် ရင်ကွဲ၍ သေဆုံး သွားလေသည်။

ဘီလုံးငှက်သည် မြေစိုင်ခဲ အကြားမှ ထွက်လာပြီးလျှင် သိမ်းငှက်သေ၏ ကိုယ်ပေါ်၌ နားလျက် "ငါသည် သင့်တင့်လျောက်ပတ်သော အရပ်ကို အမှီပြုသောကြောင့် အင်အားကြီးသူကိုပင် အနိုင်ရလေပြီ"ဟူ၍ ဆိုလေသတည်း။။



မင်္ဂလာပုံပြင် – ၅

# ထင်းခွေယောက်ျားနှင့် ဆင်ဆရာ



၅။ ပုဗ္ဗေ စ ကတပုညတာ ၊
ဧတံ မင်္ဂလ'မုတ္တမံ ။
ရှေးကောင်းမှုကံ ရှိခြင်းသည်
မြတ်သော မင်္ဂလာ မည်၏ ။

# ထင်းခွေယောကျ်ားနှင့် ဆင်ဆရာ

တစ်ရံရောအခါ ဗာရာဏသီပြည်တွင် ထင်းခွေယောကျ်ား တစ်ဦး ရှိသည်။ တစ်နံနက်တွင် သူသည် မြို့ပြင်သို့ ထွက်၍ ထင်းခွေသည်၊ ညနေစောင်းသော် ထင်းစည်းကို ထမ်းလျက် မြို့သို့ပြန်လာသည်၊ နောက်ကျသဖြင့် မြို့တံခါး ပိတ်ထားရာ မြို့ထဲသို့ မဝင်နိုင်တော့ပေ၊

ထိုအခါ ထင်းခွေယောကျ်ားသည် မြို့တံခါးဝ အနီးရှိ နတ်ကွန်း တစ်ခုသော်၌ ထင်းစည်းကိုချ၍ အိပ်လေသည်။

နတ်ကွန်းတွင် အားမွဲလွှတ်ထားသော ကြက်များရှိသည်။ ထိုကြက် များသည် နတ်ကွန်းအနီးရှိ သစ်ပင်တစ်ပင်ပေါ်၌ တက်၍ အိပ်သည်၊ မိုးလင်းခါနီး အချိန်တွင် သစ်ပင်အပေါ်ကိုင်း၌ အိပ်သော ကြက်တစ် ကောင်သည် မစင်စွန့်ချသည်။ ထိုမစင်သည် အောက်ကိုင်း၌ အိပ် သော ကြက်ပေါ်သို့ ကျလေသည်။

ဤတွင် အောက်ကိုင်းက ကြက်သည် မခံမရပ်နိုင် ဖြစ်ကာ အပေါ်ကိုင်းက ကြက်ကို လှမ်း၍ ပြောဆိုသည်။ သို့ပြောဆိုရာမှ ကြက်နှစ်ကောင် စကားများ၍ ရန်ဖြစ်ကြသည်။ ဂုဏ်ပြိုင်ကြသည်၊

"သင်သည် ငါ့တန်ဖိုးကို မသိသလော။ ငါ့ကိုသတ်၍ မီးကျီးခဲ၌ ကင်စားသူသည် နံနက်စောစောမှာပင် အသပြာတစ်ထောင် ရမည်" ဟူ၍ အောက်ကိုင်း ကြက်က ဆို၏။

"သင့်တန်ဖိုး ဤမျှသာလော။ ငါ၏ တန်ဖိုးကား သင့်ထက် အဆအရာမက ကြီးမြတ်သည်။ ငါ့ကိုသတ်၍ ငါ့ဦးခေါင်းကို စားသူ သည် မင်းဖြစ်မည်။ အပြင်က အသားကို စားသူသည် ယောကျ်ား

ဖြစ်လျှင် စစ်သူကြီးဖြစ်မည်။ မိန်းမဖြစ်လျှင် မိဖုရားဖြစ်မည်။ အရိုးအနားရှိ ကပ်နေသော အသားကိုစားသူသည် ရဟန်းဖြစ်လျှင် မင်းဆရာ ဖြစ်မည်။ လူဝတ်ကြောင်ဖြစ်လျှင် ဘဏ္ဍာစိုးဖြစ်မည်" ဟူ၍ အထက်ကိုင်း ကြက်ကလည်း ပြန်ပြော၏။

ထိုကြက်နှစ်ကောင်၏ စကားကို ထင်းခွေယောကျ်ား ကြားသွားသည်။ ဤတွင် သူသည် သစ်ပင်ပေါ်သို့ ဖြည်းညင်းစွာ တက်၍ အထက်ကိုင်းက ကြက်ကို ဖမ်းယူသတ်သည်။

ထို့နောက် မိုးလင်း၍ မြို့တံခါး ဖွင့်သောအခါ သတ်ယူထားသော ကြက်ကို ယူဆောင်ပြီးလျှင် အိမ်သို့ ပြန်လာသည်။ လမ်းတွင် "ငါ မင်းဖြစ်တော့မည်" ဟူ၍ စိတ်တွင်းမှဆိုကာ ဝမ်းမြောက်မဆုံး ဖြစ်နေသည်။

အိမ်သို့ရောက်သောအခါ မယားအား "သည်ကြက်ကို ကောင်းစွာ ချက်ပါ" ဟု ဆို၍ပေးသည်။ မယားလည်း ကြက်ကို ချက်ပြီးလျှင် ထမင်းနှင့်အတူ ထင်းခွေယောကျ်ားကို ပေးအပ်သည်။

ထင်းခွေယောကျ်ားသည် ချက်ချင်း မစားသေး။

"ရှင်မ၊ သည်ကြက်သားသည် သာမန် မဟုတ်။ ထူးခြားသော တန်ခိုးရှိသည်။ ကြက်ဦးခေါင်းကို ငါစားမည်။ မုချမသွေ မင်း ဖြစ်လိမ့်မည်။ သင်ကမူ ကြက်၏ အပြင်သားကို စားပါ။ မိဖုရား ဖြစ်လိမ့်မည်။ သို့ရာတွင် ငါတို့ ယခု မစားသေး။ ဂင်္ဂါမြစ်သို့သွား၍ ရေချိုးကြဦးမည်။ ရေချိုးပြီးမှ မြစ်ကမ်းဘေးတွင် အတူစားကြစို့" ဟု ဆိုသည်။ သို့ဖြင့် သူတို့လင်မယားသည် ကြက်သားအိုးနှင့် ထမင်းအိုးကို တောင်းတစ်ခု၌ ထည့်ကာ ဂင်္ဂါမြစ်သို့သွားကြသည်။ ရောက်လျှင် တောင်းကို မြစ်ကမ်း၌ထား၍ မြစ်သို့ ရေဆင်း ချိုးကြသည်။

ထိုစဉ် ရုတ်တရက် လေထန်လာသည်။ ရေလှိုင်းတို့ တက်လာသည်။ ကြက်သားဟင်း ထည့်ထားသော တောင်းအထိ ရေများ ရောက်လာသည်။ ဤတွင် တောင်းသည် မြစ်ရေတွင် မျောပါသွားလေသည်။ ထင်းခွေယောကျ်ား လင်မယားသည် ရေစီးနောက်သို့ မျောပါမသွားအောင် ကြိုးစားကူးခပ်ပြီးလျှင် ကမ်းသို့ တက်ပြေးရလေသည်။

ထိုစဉ် ကြက်သားဟင်းတောင်းသည် မြစ်ရေအလျဉ်တွင် မျောပါသွားသည်။ မကြာမီ အောက်ဆိပ်၌ ဆင်ကို ရေချိုးပေးနေသော ဆင်ဆရာအနီးသို့ ရောက်သွားသည်။ ဆင်ဆရာသည် တောင်းကို ဆယ်ယူ၍ ကြည့်သည်။ ထမင်းနှင့် ကြက်သားဟင်း ဖြစ်နေသဖြင့် ဆယ်ယူထားသည်။ ထို့နောက် အိမ်သို့ ယူဆောင်သွားလေသည်။

ထိုအချိန်တွင် ဆင်ဆရာကိုးကွယ်သော ရှင်ရသေ့သည် ဆင်ဆရာ၏အိမ်သို့ ကြွရောက်နေနှင့်သည်။ ရှင်ရသေ့သည် အကြားအမြင်ရသူဖြစ်သည်။ ဆင်ဆရာ ကြက်သားဟင်း ရလာသည်ကိုလည်း သိမြင်သည်။ ထိုကြက်သားဟင်း မည်မျှ ထူးခြားသော သတ္တိနှင့် ပြည့်စုံသည်ကိုလည်း သိရှိသည်။ ထို့ကြောင့် ဆင်ဆရာ့အိမ်သို့ ကြွရောက်လာခြင်း ဖြစ်သည်။

ဆင်ဆရာရောက်လာသော် ရှင်ရသေ့သည် အရိုး၌ ကပ်နေသော အသားကို မိမိအား ဆက်ကပ်စေ၍ ဘုဉ်းပေးတော်မူသည်။ ကြက်ဦးခေါင်းကိုမူ ဆင်ဆရာအား စားစေသည်။ အပြင်သား ကိုကား ဆင်ဆရာ၏ မယားအား စားစေသည်။ ထို့နောက် ဆင်ဆရာအား "သင်သည် မကြာမီ မင်းဖြစ်လိမ့်မည်။ သင့် ဇနီးသည်လည်း မိဖုရား ဖြစ်လိမ့်မည်။ မမေ့မလျော့နှင့်" ဟူ၍ ဆိုကာ ကြွသွားလေသည်။

ရက်အနည်းငယ်ကြာသော် အခြားတိုင်းပြည် တစ်ပြည်မှ မင်းတစ်ပါးသည် ဗာရာဏသီပြည်ကို လာရောက်တိုက်ခိုက်သည်။ ထိုအခါ ဗာရာဏသီမင်းက ဆင်ဆရာကို မင်းအသွင် ဝတ်ဆင်စေသည်။ "မင်းအသွင်ဖြင့် ဆင်စီး၍ စစ်ထိုးလော့"ဟု ဆို၍ စစ်ထိုးစေသည်။ မိမိမူကား ရဲမက်ဗိုလ်ပါများ အကြားတွင် မထင်မရှားသော အသွင်ဖြင့် သွားလာ၍ စီမံကွပ်ကဲ၏။ ထိုစဉ် ရန်သူများ ပစ်လွှတ်လိုက်သော မြားတစ်စင်းသည် ဗာရာဏသီမင်းကို လာရောက်ထိမှန်သည်။ မင်းသည် နေရာမှာပင် နတ်ရွာစံသွားလေသည်။

သည်တွင် ဆင်ဆရာသည် ဘဏ္ဍာတိုက်တွင်းမှ ရွှေငွေတို့ကို ထုတ်ယူစေကာ "ဥစ္စာလိုသူတို့ ရန်သူကို ရှုပ်ရှုပ်ချွံချွံ တိုက်ကြလော့" ဟု ဆို၏။ ဆိုသည့်အတိုင်းလည်း ရွှေငွေများပေး၏။ ရွှေငွေရသူတို့လည်း ဆင်ဆရာနှင့်အတူ ပူးပေါင်း၍ ရှုပ်ရှုပ်ချွံချွံ တိုက်ခိုက်သည်။ ရန်သူတို့ အရေးနိမ့်၍ ဆုတ်ခွာပြေးကြလေသည်။

စစ်ပွဲပြီးသောအခါ မှူးမတ်တို့သည် ဘုရင့်အလောင်းကို ကောင်းစွာ သင်္ဂြိုဟ်ကြသည်။ ထို့နောက် "ငါတို့ အရှင်မင်းမြတ် သက်တော်ထင်ရှားရှိစဉ်ကပင် ဆင်ဆရာကို မင်းအသွင် ပြုစေသည်။ ယခုလည်း ဆင်ဆရာ ဦးဆောင်စီမံသဖြင့် ရန်သူတို့ကို ချေမှုန်းနိုင်ခဲ့သည်။ ဆင်ဆရာကိုပင် မင်းမြှောက်ထိုက်သည်"ဟု ဆိုကြသည်။ ဆင်ဆရာကိုပင် တညီတညွတ်တည်း မင်းမြှောက်ကြလေသည်။ ဤတွင် ဆင်ဆရာ၏ မယားသည် မိဖုရားဖြစ်လာသည်။ ဆင်ဆရာ၏ ဆရာရင်းရသေ့သည်လည်း မင်းဆရာ ဖြစ်လာလေသည်။

ထင်းခွေယောကျ်ားသည် ရှေးကောင်းမှုကံ မရှိသောကြောင့် ကြက်သားဟင်းနှင့် ကြံဖန်လွဲသည်။ ဘုရင်မဖြစ်။ ဆင်ဆရာကား ရှေးကောင်းမှုကံ ရှိသောကြောင့် ကြက်သားဟင်းကို မကြံရွယ်ဘဲ ရရှိသွားသည်။ ဘုရင် ဖြစ်သွားလေသည်။ ။

မင်္ဂလာပုံပြင် – ၆

# စောင့်ထိန်းနိုင်သူ



၆။ အတ္တသမ္မာ ပဏိဓိ စ၊
တေ မင်္ဂလ မုတ္တမံ ။
မိမိကိုယ်ကို ကောင်းစွာ စောင့်ထိန်းခြင်းသည်
မြတ်သော မင်္ဂလာ မည်၏ ။

# စောင့်ထိန်းနိုင်သူ

ရှေးသရောအခါ ဗာရာဏသီ မင်းတစ်ပါးတွင် သားတစ်ထောင် ရှိသည်။ ထိုသားတစ်ထောင်ထဲမှ အငယ်ဆုံး မင်းသားသည် 'ငါကား သားတော်အငယ်ဆုံး ဖြစ်သည်။ သည်ပြည်၌ မင်းဖြစ်နိုင် ပါမည်လော' ဟူ၍ ယုံမှားသံသယ ဖြစ်မိသည်။

သို့ဖြင့် နန်းတော်သို့ ဆွမ်းစားကြွလာသော ပစ္စေကဗုဒ္ဓါတို့အား အကျိုးအကြောင်း ဖွင့်ဟမေးလျှောက်သည်။

ပစ္စေကဗုဒ္ဓါတို့က "အသင်မင်းသား၊ ဤပြည်တွင် သင် မင်း မဖြစ်နိုင်။ ဤပြည်မှ ယူဇနာ-၁၂၀ ကွာဝေးသော ဂန္ဓာရတိုင်း၊ တက္ကသိုလ်ပြည်သို့ ၇-ရက်ဖြင့် အရောက်သွားနိုင်လျှင်မူ ထိုပြည်၌ မင်းဖြစ်လိမ့်မည်။ သို့ရာတွင် ခရီးအကြား၌ တောအုပ် တစ်ခုကို ဖြတ်သန်းရမည်။ ထိုတောအုပ်၌ ဘီလူးမတို့ ရှိသည်။ သူတို့က အဆင်း (ရူပါရုံ)၊ အသံ (သဒ္ဒါရုံ)၊ အနံ့ (ဂန္ဓာရုံ)၊ အရသာ (ရသာရုံ)၊ အတွေ့ (ဖောဋ္ဌဗ္ဗာရုံ) တည်းဟူသော အာရုံငါးပါးဖြင့် ဖြားယောင်း ဖျက်ဆီးကြလိမ့်မည်။ သင်မင်းသားသည် ထိုအာရုံ ငါးပါးနောက်သို့ မလိုက်ဘဲ မိမိ၏စိတ်ကို စောင့်ထိန်းနိုင်လျှင် ဘီလူးမတို့ ရန်ကို ကျော်လွှားနိုင်မည်။ သို့မဟုတ်က ဘီလူးစား ခံရလိမ့်မည်" ဟူ၍ မိန့်တော်မူကြသည်။

မင်းသားကလည်း 'မိမိ၏စိတ်ကို စောင့်ထိန်းနိုင်ပါကြောင်း' လျှောက်ထားသည်။ ထို့နောက် အဖော်ငါးဦးနှင့်အတူ တက္ကသိုလ် ပြည်သို့ ထွက်ခွာသွားသည်။

မကြာမီ တောအုပ်သို့ ဝင်မိသည်။ တောအုပ်ထဲတွင် ရွာ၊ အိမ်၊ ဇရပ် စသည်တို့ကို ဖန်ဆင်း၍ နေထိုင်ကြသော ဘီလူးမ တို့ကို တွေ့ကြသည်။ ဘီလူးမတို့သည် လူယောင် ဖန်ဆင်းလျက် အဖိုးတန် အဝတ်တန်ဆာများကို ဝတ်ဆင်ထားသည်။

သူတို့ကို တွေ့သောအခါ အဖော်ငါးဦး အနက် တစ်ဦးသည် အဆင်းကို မတပ်မက်ဘဲ မနေနိုင်။ စိတ်ကို မထိန်းနိုင်။ နောက်ချန် နေရစ်သည်။ ထိုအခါ မင်းသားက မေးရာ လိမ်ညာ၍ ဖြေဆိုသည်။

"အရှင့်သား၊ အကျွန်ုပ် ခြေနာနေပါသည်။ ဇရပ်၌ အတန်ငယ် နားနေပြီးမှ လိုက်ခဲ့ပါမည်။"

"အဆွေ၊ ဤမိန်းမတို့သည် ဘီလူးမများ ဖြစ်သည်။ မတပ်မက် ပါနှင့်။"

"အရှင့်သား ၊ ဖြစ်လိုရာဖြစ်စေ။ ကျွန်ုပ် ခေတ္တ နေရစ်ပါဦးမည်။"

"ဤသို့ဆိုလျှင် သင့်အမှားကို မကြာမီ သင်သိရလိမ့်မည်။"

မင်းသားလည်း အဖော်ကို တားမရသဖြင့် ကျန်အဖော် ၄- ယောက်နှင့်အတူ ဆက်လက် ထွက်ခွာလာခဲ့သည်။

ထိုစဉ် အဆင်း တပ်မက်သူထံသို့ ဘီလူးမတစ်ယောက် ရောက် လာသည်။ အဆင်းဖြင့် မြှူဆွယ်ပြီးလျှင် ထိုသူ၏ အကြိုက်ကို ဆောင်သည်။ ထို့နောက် ဘီလူးမသည် ထိုသူကို အစိမ်းလတ်လတ် ကိုက်သတ်စားလိုက်လေသည်။

ဤသို့အဆင်းကို တပ်မက်သူအား စားပြီးနောက် ဘီလူးမတို့ သည် တေးသံ၊ တူရိယာသံ စသည့် အသံဖြင့် မြှူဆွယ်ပြန်သည်။ မင်းသား၏ ကျန်အဖော် ၄-ယောက်အနက်မှ တစ်ဦးမှာ အသံကို တပ်မက်သူ ဖြစ်သည်။ ထိုသူသည် မထိန်းနိုင်။ နောက်ချန် နေရစ် ပြန်သည်။ ဘီလူးမတို့က ထိုသူ၏အကြိုက်ကို ဆောင်ပြီးနောက်

စားပြန်လေသည်။ ထို့နောက် အနံ့၊ အရသာ၊ အတွေ့တို့ဖြင့် အမျိုးမျိုး မြှူဆွယ်ကြပြန်သည်။ မင်းသား၏ ကျန်အဖော် သုံးယောက်မှာ မထိန်းနိုင်ကြ။ တစ်ယောက်ပြီး တစ်ယောက် နေရစ်ခဲ့ရာမှ ဘီလူးမ တို့၏အစာ ဖြစ်သွားလေသည်။

နောက်ဆုံး၌ မင်းသား တစ်ဦးတည်းသာ ကျန်တော့သည်။ ထို အခါ ဘီလူးမတစ်ယောက်က 'ဤယောကျ်ားသည် အလွန် သတိ ရှိသည်။ မိမိ၏ ကိုယ်စိတ်နှစ်ပါးကို ထိန်းနိုင်သည်။ သို့ရာတွင် ဤ သူကို မရ ရအောင် ဖြားယောင်းမည်။ ဤသူ့အသားကို စားပြီးမှ ပြန်တော့မည်' ဟူ၍ ကြံစည်သည်။ မိန်းမပျို ယောင်ဆောင်လျက် မင်းသားနောက်မှ ကပ်၍ လိုက်သွားသည်။

လမ်းခရီးတွင် ခရီးသွားများက မြင်တွေ့သောအခါ "နှမငယ်၊ ရှေ့မှသွားသော ယောကျ်ားသည် သင်နှင့် မည်သို့ တော်စပ်သနည်း" ဟု မေးကြသည်။

ဘီလူးမက "အစ်ကိုတို့၊ ဤယောကျ်ားကား ကျွန်ုပ်၏ ခင်ပွန်း ဖြစ်ပါသည်" ဟူ၍ လိမ်လည်ပြောဆို၏။

သည်တွင် ခရီးသွားများက မင်းသားအား "အဆွေ၊ ဤသူငယ်မ သည် အဆင်းလှပ၍ နူးညံ့သိမ်မွေ့၏။ မိဘကိုစွန့်၍ သင့်နောက်သို့ လိုက်ခဲ့သည်။ အဘယ့်ကြောင့် ကောင်းစွာ ပြုစုစောင့်ရှောက်၍ ခေါ် မသွားပါသနည်း" ဟူ၍ ပြစ်တင်ပြောဆို၏။

မင်းသားက "အဆွေတို့၊ ဤမိန်းမသည် ငါ၏မယား မဟုတ်။ ဘီလူးမတည်း။ ငါ၏ အဖော်ငါးယောက်ကို သူတို့စားခဲ့ကြပြီ" ဟူ၍ ရှင်းလင်းပြောပြ၏။

ထိုအခါ ဘီလူးမက "အစ်ကိုတို့၊ ယောကျ်ား မည်သည် အမျက် ထွက်သောအခါ မိမိ၏ မယားကိုပင် ဘီလူးမ၊ ပြိတ္တာမ စသည်ဖြင့်

ဆဲဆိုကြသည်မှာ သင်တို့ အသိပင် မဟုတ်လော" ဟူ၍ ပရိယာယ်ဖြင့် ပြန်ပြော၏။

ဤသို့လျှင် ဘီလူးမသည် နောက်မှ လိုက်မြဲလိုက်၏။ ဘီလူးမသည် တစ်ခါတစ်ရံ ကိုယ်ဝန်ဆောင် သဏ္ဌာန်ဖန်ဆင်း၏။ တစ်ခါတစ်ရံ သားဖွားပြီးစ မိန်းမအသွင် ဖန်ဆင်း၍ သားငယ်ကို ရင်ခွင်၌ ပိုက်လျက် လိုက်၏။ မြင်တွေ့သူတိုင်း ကလည်း ယခင်အတိုင်း မေးမြန်းကြ၏။ ဘီလူးမက ယခင်အတိုင်း ဖြေဆို၏။ မင်းသားကလည်း ယခင်အတိုင်း ဖြေရှင်းပြောပြ၏။ ခရီးသွား အများစုသည် ဘီလူးမ၏ စကားကိုပင် အမှန်ထင်ကြ၏။

နောက်ဆုံး၌ တက္ကသိုလ်ပြည်သို့ ရောက်သွားသည်။ မင်းသားသည် မြို့တံခါးအနီး ဇရပ်တစ်ခု၌ နားနေသည်။ ဘီလူးမကား မင်းသား၏ တန်ခိုးကြောင့် ဇရပ်အတွင်းသို့ မဝင်နိုင်။ အလွန်လှပသော မိန်းမပျိုအသွင် ဖန်ဆင်းကာ ဇရပ်တံခါး၌ ရပ်နေသည်။

ထိုအခိုက် တက္ကသိုလ်ပြည့်ရှင် ဘုရင်သည် ဥယျာဉ်သို့ ထွက်တော်မူလာသည်။ ဘီလူးမကို မြင်လျှင် နှစ်သက်သွားသည်။ မင်းချင်းတစ်ယောက်ကို စေလွှတ်လျက် အရှင်ယောကျ်ား ရှိ မရှိ မေးစေသည်။ ဘီလူးမက ယခင်အတိုင်းပင် မင်းသားသည် မိမိ၏ လင်ယောကျ်ား ဖြစ်သည် ဆို၏။ မင်းသားကလည်း ယခင်အတိုင်းပင် မိမိ မယား မဟုတ်။ ဘီလူးမ ဖြစ်သည်ဟု ရှင်းပြ၏။ နောက်ဆုံးတွင် ဘုရင်က "အရှင်ယောကျ်ား မရှိသူဖြစ်သည်" ဆိုကာ သိမ်းပိုက် လိုက်သည်။ မိဖုရားကြီး အရာ၌ ထားလေသည်။

ထိုညမှာပင် ဘီလူးမသည် ထ၍ ငိုသည်။ ဘုရင်က မေးသော် ဘီလူးမက– "အရှင်မင်းကြီး၊ အကျွန်ုပ်မှာ များစွာသော မိဖုရားတို့ အလယ်တွင် နေရသည်။ မိဘဆွေမျိုးမရှိ။ မျက်နှာငယ်လှပါသည်။

လမ်းမှရသော မိန်းမဖြစ်သည် ဆိုကြသော်၊ အကျွန်ုပ်မျက်နှာ မဖော်ဝံ့ဘဲ ရှိပါတော့မည်။ သို့ကြောင့် အကျွန်ုပ်အား တစ်ပြည်လုံးကို အစိုးရသော အခွင့်အာဏာကို ပေးတော်မူပါ" ဟူ၍ တောင်းဆို၏။

ဘုရင်က မဖြစ်နိုင်ကြောင်း အတန်တန် ဆိုသည်။ သည်တွင် ဘီလူးမက "ဤသို့ဆိုလျှင် အကျွန်ုပ်အား နန်းတော် တွင်း၌သာ အစိုးရသော အခွင့်အာဏာကို ပေးပါ"ဟု ဆို၏။

ဘုရင်လည်း ဘီလူးမကို လွန်စွာတပ်မက်နေသဖြင့် ဘီလူးမစကား ကို မဖယ်ရှားနိုင်။ အလိုသို့လိုက်၍ နန်းတော်တွင်း အစိုးရသော အခွင့် အာဏာကို ပေးလိုက်ရသည်။

မကြာမီ ဘုရင် အိပ်ပျော်လျှင် ဘီလူးမသည် ဘီလူးမြို့သို့သွား၍ ဘီလူးတို့ကို ခေါ်လာခဲ့သည်။ သူသည် ဘုရင်ကို ကိုက်သတ်စားသည်။ ကျန်ဘီလူးတို့က နန်းတွင်းရှိ ယောကျ်ား၊ မိန်းမ၊ ခွေး၊ ကြက် စသည် တို့ပါမကျန် အားလုံးကို စားပစ်ကြသည်။ အရိုးများကိုသာ ထား၍ ထွက်ခွာ သွားကြလေသည်။

နံနက်မိုး သောက်သော် အရိုးများဖြင့် ပြည့်နှက်နေသော နန်းတော် ကို လူတို့ မြင်ကြရသည်။ ထိုအခါမှ "မိမိ၏ မယား မဟုတ်၊ ဘီလူးမ ဖြစ်သည်"ဟု ပြောခဲ့သော ယောကျ်ားကို လေးစားမြတ်နိုး သွားကြ သည်။ "ထိုယောကျ်ားသည် မှန်သောစကားကို ဆိုသည်။ သတိပညာ နှင့် ပြည့်စုံသည်။ ထိုသူကို မင်းမြှောက်ရသော် ငါတို့ တိုင်းပြည် ချမ်းသာ၍ စည်ပင်သာယာ ဝပြောလိမ့်မည်" ဟု ဆိုကာ မင်းသားကို မင်းမြှောက်ကြသည်။

ဆီအပြည့်ရှိသောခွက်ကို ဆီမဖိတ်ရအောင် ဆောင်ယူရ သကဲ့ သို့ မင်းသားသည် မိမိ၏ စိတ်ကို သတိကြီးစွာဖြင့် ထိန်းချုပ်နိုင်ခဲ့ သည်။ ထို့ကြောင့် အသက်မသေ၊ မင်းအဖြစ်ကို ရလေသည်။

မင်းဖြစ်သောအခါ မင်းသားသည် မင်းကျင့်တရားနှင့် အညီ မင်းပြု၍ ပြည်သူတို့ အကျိုးကို ဆောင်ရွက်လေသည်။

တေလပတ္တဇာတ်



# အကြားအမြင်များသူ



၇။ ဗာဟုသစ္စဉ္စ ၊

ဧတံ မင်္ဂလ'မုတ္တမံ ။

အကြားအမြင် များခြင်းသည်

မြတ်သော မင်္ဂလာ မည်၏ ။

# အကြားအမြင် များသူ

တစ်ရံရောအခါ ကုသမ္ဗီပြည်၌ မဟာသမ္မတမင်း စိုးစံသည်။ ထိုမင်းလက်ထက်မှာပင် ပုဏ္ဏား ခုနစ်ယောက်တို့သည် ကောင်းတူဆိုးဖက် အဖော်ခွဲစပ်ပွန်း ဖွဲ့ကြပြီးလျှင် အမြို့မြို့ အရွာရွာသို့ လှည့်လည်ကြသည်။ ဗေဒင်လက္ခဏာ ဟော၍ စီးပွားရှာကြသည်။ ရလာသော ငွေကြေးတို့ကို စုဆောင်း ထားကြသည်။ အတန်ကြာသော် အသပြာငါးရာ စုဆောင်းမိလာသည်။

ထိုငွေတို့ကို ပုဏ္ဏား အချို့က ခွဲဝေယူလိုကြသည်။ သို့ရာတွင် အချို့က ခွဲဝေယူရန် ဆန္ဒမရှိကြ။

"ငါတို့ကား ခုနစ်ယောက်ဖြစ်သည်။ အသပြာ ငါးရာမျှဖြင့် ဝေယူရန် မသင့်သေး။ သည်အသပြာငါးရာကို သူဌေးရဲ့မ ထံ၌ အပ်နှံထားပြီးလျှင် အသပြာခုနစ်ရာပြည့်အောင် နောက်ထပ် ရှာသင့်သည်"ဟူ၍ ဆိုကြသည်။

ထိုအကြံကို အားလုံး သဘောတူကြသည်။ အသပြာ ငါးရာကို သူဌေးရဲ့မ တစ်ယောက်ထံ အပ်နှံထားကြသည်။ သူဌေးရဲ့မကိုလည်း "ဤအသပြာငါးရာကို အသင် ကောင်းစွာ သိမ်းဆည်းထားပါ။ ငါတို့ ခုနစ်ယောက် စုံစုံညီညီ လာရောက်တောင်းမှ ပေးပါ။ ခုနစ်ယောက် မပြည့်ဘဲ တစ်ယောက်နှစ်ယောက် လာတောင်းရုံမျှဖြင့် မပေးပါနှင့်" ဟူ၍ မှာကြားထားလေသည်။

ထို့နောက် ပုဏ္ဏား ခုနစ်ယောက် အတူထွက်ခွာ သွားကြသည်။ သူဌေးရဲ့မ၏ အိမ်နှင့် မနီးမဝေး လှမ်း၍ခေါ်သံ ကြားလောက်သော

အရပ်သို့ ရောက်သောအခါ ချောင်းတစ်ခုကို တွေ့ကြသည်။ ဤတွင် ပုဏ္ဏားတို့ ဘာသာဘာဝ ဦးခေါင်းဆေးမင်္ဂလာပြုရန် ပြင်ဆင်ကြသည်။ သို့ရာတွင် တရော်ကင်ပွန်း မပါသဖြင့် အတူပါလာသူ ပုဏ္ဏားငယ်တစ်ယောက်အား "သူဆင်းရဲမထံ သွား၍ တရော်ကင်ပွန်း တောင်းချေ"ဟု စေလိုက်သည်။

ပုဏ္ဏားငယ်သည် ရိုးဖြောင့်သူ မဟုတ်။ သူဆင်းရဲမထံ ရောက်သောအခါ တရော်ကင်ပွန်းကိုသာမက အသပြာငါးရာကိုပါ တောင်းလေသည်။

သူဆင်းရဲမကလည်း "သင်တို့ ခုနစ်ယောက် တညီတညွတ်တည်း လာမှ ပေးပါဆို၍ အပ်နှံခဲ့သည်။ ယခု တစ်ယောက်တည်း လာတောင်းသဖြင့် မပေးနိုင်ပါ"ဟု ဆို၍ ငြင်းဆန်သည်။

ပုဏ္ဏားငယ်က "ကျွန်ုပ်ကို မယုံသော်ပုဏ္ဏားကြီးတို့အား ဟစ်၍ မေးလော့"ဟု ပရိယာယ်ဖြင့်ဆိုသည်။

သည်တွင် သူဆင်းရဲမက "အရှင်ပုဏ္ဏားကြီးတို့၊ အပ်ခဲ့သော ဥစ္စာကို ပေးလိုက်ရမည်လော"ဟု ဟစ်၍မေးသည်။

ပုဏ္ဏားခြောက်ယောက်တို့ကလည်း တရော်ကင်ပွန်းကို မေးသည် ထင်၍ "ပေးလိုက်ပါ"ဟု ဟစ်၍ ဆိုကြသည်။ ပုဏ္ဏားငယ်က "ကျွန်ုပ်ပြောသည်ကို ယုံပြီလော။ ယခုပင် အသပြာငါးရာကို ထုတ်ပေးပါ"ဟု ထပ်မံတောင်းဆိုသည်။ ဤသို့ဖြင့် သူဆင်းရဲမသည် ပုဏ္ဏားငယ်အား တရော်ကင်ပွန်းကိုသာမက အသပြာ ငါးရာကိုပါ ပေးလေသည်။

ပုဏ္ဏားငယ်လည်း အသပြာငါးရာကို တစ်နေရာ၌ ဝှက်ထားသည်။ တရော်ကင်ပွန်းကိုသာ ပုဏ္ဏားကြီးတို့ကို ပေးသည်။ အားလုံး ခေါင်းဆေး မင်္ဂလာပြုကြပြီးသော် ခရီးဆက်၍ သွားကြသည်။

ညဘက်သို့ ရောက်သောအခါ ရွာငယ်တစ်ရွာတွင် အိပ်ကြသည်။ ထိုညမှာပင် ပုဏ္ဏားငယ်သည် ထွက်ပြေးကာ ဝှက်ထားခဲ့သော အသပြာ ငါးရာကို ယူသည်။ ထို့နောက် လှေစီး၍ မြစ်တစ်ဖက်ကမ်းသို့ ကူးကာ ထွက်ပြေးသွားလေသည်။

နံနက်မိုးသောက်သောအခါ ပုဏ္ဏားကြီးတို့သည် ပုဏ္ဏားငယ်ကို မမြင်သဖြင့် မယုံသင်္ကာ ရှိလာကြသည်။ သို့ဖြင့် သူဆင်းရဲမထံ ပြန်လာလျက် စုံစမ်းကြသည်။ ထိုအခါ ဥစ္စာတို့ကို ပုဏ္ဏားငယ် ယူပြေးကြောင်း သိရတော့သည်။

ပုဏ္ဏားကြီးတို့က မကျေနပ်ကြသဖြင့် သူဆင်းရဲမနှင့် အချေအတင် ပြောဆိုကြသည်။

"ငါတို့ ခုနစ်ယောက် အစုံအညီ လာရောက်တောင်းမှ ဥစ္စာကို ပေးပါဟု ဆိုခဲ့သည်။ ယခု ပုဏ္ဏားငယ် တစ်ယောက်တည်းကို ပေးလိုက်ရသလော။"

"ကျွန်မ မယုံ၍ ဟစ်မေးပါသေးသည်။ အရှင်ပုဏ္ဏားကြီးတို့ အားလုံးက ပေးလိုက်ပါဟု ဆိုသည် မဟုတ်ပါလော။ ထို့ကြောင့် ကျွန်မက ပုဏ္ဏားငယ်ကို ဥစ္စာပေးလိုက်ရသည်။ သို့ပေးသည့်အတွက် ကျွန်မ၌ တာဝန်မရှိပါ။"

ပုဏ္ဏားကြီးတို့ကလည်း "သင့်၌ တာဝန်ရှိ၊ မရှိကို မင်းကြီးထံ လျှောက်ထား၍ အဆုံးအဖြတ်ယူမည်"ဟု ဆိုကာ ဘုရင့်ထံ သွား၍ လျှောက်ထားကြသည်။ ဘုရင်လည်း သူဆင်းရဲမကို ခေါ်ယူစစ်ဆေးသည်။

"ပုဏ္ဏား ခုနစ်ယောက် အပ်နှံသော ဥစ္စာကို သူတို့အားလုံး တောင်းလာမှ ပေးပါဟု ပုဏ္ဏားတို့ မှာခဲ့ပါသလော။"

"မှာခဲ့ပါသည်။"

"သို့မှာလျက်နှင့် တစ်ယောက်တည်းက ဘောင်းလာသည်ကို သင်ပေးပါသလော။"

"ပေးမိပါသည်။"

"ဤသို့ဆိုလျှင် သင်ကပင် အသပြာငါးရာကို အလျော်ပေး ရမည်။"

"ကျွန်တော်မျိုးမမှာ ဆင်းရဲသူ မုဆိုးမ ဖြစ်ပါသည်။ လူမမည် သမီးကလေး တစ်ယောက်ကိုသာ အဖော်ပြု၍ နေရပါသည်။ ဥစ္စာကို အလျော်မပေးနိုင်ပါ။"

ထိုအခါ ဘုရင်က "ဥစ္စာကို မပေးနိုင်လျှင် သင်ကိုယ်တိုင် ပုဏ္ဏားကြီးတို့ထံတွင် တစ်လှည့်စီ ကျွန်ခံလေ" ဟူ၍ စီရင်လိုက်လေ သည်။

ဘုရင့်စီရင်ချက်အတိုင်းပင် သူဆင်းရဲမသည် ပုဏ္ဏား အကြီးဆုံး အိမ်ကစ၍ လခွဲစီ၊ ပုဏ္ဏားကြီး ခြောက်ယောက်ထံ ကျွန်ခံရရှာသည်။ ထိုစဉ် လူမမည် သမီးကလေးသည် ကြီးပြင်းလာသည်။ သမီးကလေး သည် ထူးခြားလိမ္မာသည်။ သူသည် စာပေကျမ်းဂန်များကို သင်ယူ သည်။ လေ့လာဖတ်ရှု မှတ်သားသည်။ လူကြီးသူမတို့၏ အဆုံးအမ ကိုလည်း ကောင်းစွာ နာယူမှတ်သားသည်။ အကြားအမြင်များသူ ဖြစ်လာသည်။

ထိုသမီးငယ်သည် ၁၈-နှစ်အရွယ်သို့ ရောက်လျှင် မိခင်အား "မိခင်၊ အဘယ့်ကြောင့် ပုဏ္ဏားခြောက်ယောက်ထံတွင် တစ်လှည့်စီ ကျွန်ခံနေရပါသနည်း။ အခြားသူတို့မှာ ကျွန်ခံရသော်လည်း အရှင် တစ်ယောက်တည်းသာ ရှိသည်။ မိခင်မှာကား အရှင်ခြောက်ယောက် ပင် ရှိနေသည်။ မည်သည့် အမှုကြောင့် ဤသို့ ဖြစ်ရပါသနည်း" ဟု မေးမြန်းသည်။

မိခင်ကလည်း ပုဏ္ဏားတို့ ဥစ္စာအပ်နှင်းသည်ကစ၍ ဖြစ်သမျှ အကြောင်းစုံကို ပြန်ပြောပြသည်။

ထိုစကားကို ကြားသော် သမီးငယ်က "သည်အတိုင်းဆိုလျှင် ကျွန်မခံသင့်။ ဘုရင်မင်းမြတ်ကို ကျွန်မ လျှောက်တင်မည်" ဆိုကာ မိခင်ကိုခေါ်၍ ဘုရင့်ထံ သွားသည်။

ဘုရင့်ထံရောက်သော် သမီးငယ်က "အရှင်မင်းကြီး၊ အရှင့်ပြည်တော်ဝယ် သူတစ်ပါးတို့ ကျွန်ဖြစ်ကြသည်မှာ အရှင်သခင်ဆို၍ တစ်ယောက်သာ ရှိပါသည်။ ကျွန်တော်မျိုးမ၏ မိခင် ကျွန်ဖြစ်ရသည်မှာမူ အရှင်ခြောက်ယောက် ရှိနေပါသည်။ ယင်းကိစ္စကို ကျွန်တော်မျိုးမ မကျေနပ်နိုင်ပါ။ အရှင့် ရှေ့တော်ဝယ် ပုဏ္ဏားတို့နှင့် တရားဆိုလိုပါသေးသည်။ ခေါ်တော်မူပါ" ဟု လျှောက်၏။

ဘုရင်လည်း အမျိုးသမီးငယ်၏ စကားကို ကြားလျှင် "သင်တို့ သားအမိသည် တရားလို ဖြစ်ပေသည်။ ဆိုလိုက ဆိုပါစေ" ဟု ဆိုကာ ပုဏ္ဏား ခြောက်ယောက်ကို ခေါ်ပေးသည်။

ပုဏ္ဏား ခြောက်ယောက်တို့ ရောက်လာသော် အမျိုးသမီးငယ်က "အရှင်မင်းကြီး၊ ကျွန်တော်မျိုးမကို အသပြာငါးရာ ခေတ္တချေးပါ" ဟု ဆို၍ ဘုရင့်ထံမှ အသပြာငါးရာ ချေးယူသည်။ ဘုရင်ကလည်း အသပြာငါးရာ ချေးငှားလိုက်သည်။

အမျိုးသမီးငယ်သည် အသပြာငါးရာထုပ်ကို ကိုင်လျက် ပုဏ္ဏားတို့အား အရေးဆိုသည်။ "အရှင်ပုဏ္ဏားတို့၊ ကျွန်မ၏ မိခင်သည် အသပြာငါးရာကို မပေးနိုင်သဖြင့် အရှင်တို့ထံ ကျွန်ခံနေရပါသည်။ ယခု ထိုအသပြာကို ပေးအပ်လျှင် ကျွန်အဖြစ်က လွတ်မည်လော" ဟု မေးသည်။ ပုဏ္ဏားတို့ကလည်း "လွတ်ပါမည်" ဟု ဝန်ခံကြသည်။

ထိုအခါ အမျိုးသမီးငယ်က "ယခု ငွေရပါပြီ။ ကျွန်မ ပေးဆပ်ပါတော့မည်။ အပ်နှံရင်း ပုဏ္ဏားခုနစ်ယောက် ပြည့်အောင် ခေါ်ပါ"ဟု ဆိုသည်။ ပုဏ္ဏားခြောက်ယောက်တို့မှာ ခုနစ်ယောက် မပြည့်။ ငွေကို လက်မခံနိုင်။ ငွေခိုးသွားသော ပုဏ္ဏားငယ် မည်သည့်အရပ်သို့ ထွက်ပြေးသွားသည်ကိုလည်း မသိ။ တွေ့အောင်လည်း မရှာနိုင်။ မည်သို့မျှ မတတ်နိုင်အောင် ဖြစ်ကြရသည်။

ထိုအခါ မှူးမတ်တို့သည် အမျိုးသမီးငယ်၏ ဉာဏ်ပညာကို အံ့ချီးမဆုံး ရှိကြသည်။ "သည် အမျိုးသမီးငယ်သည် အကြားအမြင်များလှသည်။ တရားအရာ၌ လိမ္မာတတ်ကျွမ်းလှသည်။ ငါတို့မင်းကြီး စီရင်ခြင်းသည် အတန်ငယ် ချွတ်ယွင်းသည်။ သည်မိန်းမငယ်နှင့် တိုင်ပင်၍ ပြည်ထဲရေးကို စီရင်ရသော် အဆတစ်ရာ ပြည်အရေးသာလိမ့်မည်"ဟု အချင်းချင်း ပြောဆိုကြသည်။ ပုဏ္ဏားခြောက်ယောက်တို့ပင် မနေသာ။ ချီးကျူးသမှုပြုကြရသည်။

ဘုရင်ကလည်း "ငါစီရင်သော တရားကား မှွင်းမှားပေစွ။ ယနေ့မှစ၍ သူဝေင်းရဲမကို ကျွန်အဖြစ်မှလွှတ်စေ။ ငါတရား မှားသည့်အတွက်ကြောင့် အမျိုးသမီးငယ် ချေးမှားသော အဆပြာပါးရာကို လျော်ကြေးအဖြစ် အမြီးအပိုင်ယူစေ"ဟူ၍ ပြောင်းလဲစီရင် လိုက်လေသည်။

ထို့နောက် ဘုရင်သည် အမျိုးသမီးငယ်၏ အကြားအမြင်များမှု၊ ဉာဏ်ပညာရှိမှုကို လေးစားမြတ်နိုးသဖြင့် အမျိုးသမီးငယ်ကို မိဖုရားမြှောက်လိုက်လေသည်။ ပြည်ထဲရေးကို တိုင်ပင်နှီးနှောခြင်း ပြုလေသည်။ ။

# ပန်းပဲလုလင်



၈။ သိပ္ပဉ္စ ။

ဧတံ မင်္ဂလ'မုတ္တမံ ။

လက်မှုစက်မှုပညာ တတ်မြောက်ခြင်းသည်

မြတ်သော မင်္ဂလာ မည်၏ ။

# ပန်းပဲလုလင်

ရှေးသရောအခါ ကာသိတိုင်း၌ ရွာတစ်ရွာ၌ ဆင်းရဲသော ပန်းပဲ သမား လင်မယားနှစ်ယောက် ရှိသည်။ သူတို့တွင် သားလူလင်ပျို တစ်ယောက် ရှိသည်။ လုလင်ပျိုသည် ပန်းပဲအလုပ်ကိုပင် လုပ်ကိုင် သည်။ သူသည် ပန်းပဲပညာကို အထူးကြိုးစား သင်ယူထားသဖြင့် ပန်းပဲပညာကို ထူးချွန်စွာ တတ်မြောက်သည်။ ဓားလှံတို့မှ အစ အပ်တိုအထိ သံထည်ပစ္စည်းအမျိုးမျိုးကို ထူးခြားစွာ ပြုလုပ်တတ်သည်။ ပန်းပဲလုလင်ပျိုနေထိုင်ရာ ရွာအနီးတွင် အိမ်ခြေတစ်ထောင် ရှိသော ပန်းပဲရွာကြီးတစ်ရွာရှိသည်။ ထိုရွာရှိ အကြီးအကဲဖြစ်သူ ပန်းပဲဆရာကြီး တွင် သမီးပျိုတစ်ယောက် ရှိသည်။ သူမသည် လှပတင့်တယ်သည်။ လိမ္မာယဉ်ကျေးသည်။ သူမ၏ ဂုဏ်သတင်းသည် အနီးဝန်းကျင်ရှိ ရွာများတိုင်အောင် သင်းပျံ့သည်။ သူမ၏ ဂုဏ်သတင်းကို ပန်းပဲ လုလင်ပျို ကြားသောအခါ မမြင်ဖူးဘဲနှင့် မေတ္တာသက်ဝင်မိသည်။ ထို့ကြောင့် သူသည် 'မိမိ၏ပညာစွမ်းကိုပြ၍ မိန်းမပျိုကို ရအောင် ဆောင်နှင်းမည်'ဟူ၍ ကြံစည်ကြိုးစားသည်။

သူသည် အလွန်ကောင်းသော သံဖြင့် အလွန်သေးငယ်သော အပ်တစ်ချောင်းကို ပြုလုပ်သည်။ အပ်တွင် နဖားထွင်းပြီးလျှင် ရေ ပေါ်၌ ပေါ်အောင် စီမံပြုလုပ်သည်။ ထို့နောက် ထိုအပ်နှင့် အလား တူသော အပ်အိမ်ကို ပြုလုပ်သည်။ အပ်ကို ထိုအပ်အိမ်ထဲတွင် ထည့် သည်။ ထို့နောက် အလားတူ အပ်အိမ်တစ်ခုကို လုပ်ပြန်သည်။ ပထမ အပ်အိမ်ကို ဒုတိယ အပ်အိမ်၌ ထည့်သည်။ ဤသို့လျှင် အပ်အိမ် အဆင့်ဆင့်ပြု၍ ထည့်သည်။ အပ်အိမ် ခုနစ်အိမ် အထိ ပြုသည်

ထို့နောက် ယင်းကို အပ်ကျည်တောက်တွင် ထည့်၍ ပန်းပဲရွာသို့ ယူဆောင်သွားလေသည်။

သူသည် ပန်းပဲဆရာကြီး၏ နေအိမ်ရှေ့သို့ ရောက်သောအခါ "အပ်ရောင်းမည်"ဟူ၍ ဟစ်အော်သည်။

ထိုအချိန်တွင် ပန်းပဲဆရာကြီး၏ သမီးပျိုသည် ဖခင် ပန်းပဲဆရာကြီးကို ယပ်ခတ်ပေးနေသည်။ သူမသည် ပန်းပဲလုလင်၏ အသံကို ကြားသောအခါ အိမ်ထဲမှ ထွက်လာပြီး ညင်သာစွာ ပြောဆိုသည်။

"မောင်ကြီးရှင့်၊ သည်ရွာသည် ပန်းပဲရွာ ဖြစ်သည်ကို မသိပါသလော။ အခြားရွာမှ အပ်အလိုရှိသူများပင် သည်ရွာသို့လာ၍ ဝယ်ကြရသည်။ မောင်ကြီး၏ အပ်ကို အခြားရွာသို့ သွား၍ ရောင်းပါလေ။"

"နှမငယ်၊ သည်ရွာမှာ ကျွမ်းကျင်သော ပန်းပဲသမားများ နေထိုင်ရာ ရွာဖြစ်ကြောင်း မောင်ကြီးကောင်းစွာ သိပါသည်။ မောင်ကြီး၏ အပ်သည် အခြားအပ်များနှင့် မတူ။ ထူးခြားလှပါသည်။ ထို့ကြောင့် နှမတို့ရွာသို့ လာရောင်းခြင်း ဖြစ်ပါသည်။ မောင်ကြီး၏ အပ်ကို နှမ၏ ဖခင်သာ တွေ့မြင်ပါက မောင်ကြီး၏ပညာကို ချီးကျူးကာ နှမငယ်နှင့်ပင် လက်ဆက်ပေးမည် ထင်ပါသည်။"

သူတို့နှစ်ဦး အချီအချပြောနေသည်ကို ပန်းပဲဆရာကြီး ကြားသွားသည်။ ပန်းပဲလုလင်ကို အိမ်ထဲသို့ ခေါ်စေသည်။ လုလင်ပျို ရောက်လာသောအခါ "အမောင်၊ သင့်အပ်ကို ပြပါ"ဟု ဆို၏။

လုလင်ပျိုက "ဖခင်တစ်ဦးတည်း ကြည့်ရသည်ထက် အခြားပန်းပဲဆရာများနှင့်အတူ ကြည့်ရသည်က ပိုကောင်း ပါလိမ့်မည်" ဟူ၍ ဆို၏။ သို့ဖြင့် ပန်းပဲဆရာကြီးသည် ရွာတွင်းရှိ အခြား ပန်းပဲဆရာများကိုပါ ခေါ်ယူစုရုံး၍ ကြည့်ရှုစေသည်။

ရှုစုံသောအခါ လုလင်ပျိုသည် အပ်ကျည်တောက်ကို ထုတ်၍ ပေးသည်။ ပန်းပဲဆရာကြီးသည် အပ်ကျည်တောက်ထဲမှ အပ်အိမ် ငယ်ကို ထုတ်ယူ၍ ကြည့်ရှုလျက် မေးမြန်းသည်။

"အမောင်၊ သည်အရာသည် အပ်လော။"

"အပ် မဟုတ်သေးပါ။ အပ်အိမ်မျှသာ ဖြစ်ပါသည်။"

ပန်းပဲဆရာကြီးသည် အပ်အိမ်ကို သေချာစွာ စစ်ဆေးကြည့်သည်။ အပ်အိမ်မှာ နဖားဇါနေသဖြင့် အပ်အိမ်နှင့်မတူ။ အပ်ဟူ၍ပင် ထင် မှတ်ရသည်။ ထို့ပြင် အပ်အိမ်ဟု ဆိုရလောက်အောင်လည်း အဖုံးကို မတွေ့ရ။ အဆက်၊ အရာ၊ အကြောင်းကိုလည်း မတွေ့ရ၊ အံ့ဖွယ်ပင်။

ထိုစဉ် လုလင်ပျိုသည် ပန်းပဲဆရာကြီးလက်မှ အပ်အိမ်ကို ယူ လျက် လက်သည်းဖြင့်ခြစ်၍ အပ်အိမ်ခုနစ်ခုကို တစ်ခုပြီးတစ်ခု ချွတ် ပြသည်။ နောက်ဆုံးတွင်မှ အပ်ငယ် ပေါ်ထွက်လာသည်။

လုလင်ပျိုက "ဖခင်၊ ဤကား အပ်ဖြစ်ပါသည်"ဟု ဆို၍ အပ် ကို ပန်းပဲဆရာကြီးထံ လှမ်းပေးသည်။ ပန်းပဲဆရာကြီး၊ ကျန်ပန်းပဲ ဆရာများနှင့် ပရိသတ်အားလုံးပင် အံ့ချီးမဆုံးရှိကြသည်။

လုလင်ပျိုသည် ထိုမျှဖြင့် ရပ်တန့်မနေ။ မိမိ၏ အပ်အစွမ်းကို ပြရန်အတွက် ပေခံကိုလည်း တောင်းသည်။ ရေအပြည့် ထည့်ထားသော ကြေးခွက်ကိုလည်း တောင်းသည်။

သူတောင်းသော ပစ္စည်းများကို ရသော် လုလင်ပျိုက ပန်းပဲ ယောက်ျားကြီး တစ်ဦးအား ပေခံကို ကိုင်ထားစေသည်။ အခြားတစ်ဦး အား ထိုပေခံအောက်တွင် ရေထည့်ထားသော ကြေးခွက်ကို ကိုင်ထား စေသည်။

အားလုံး အသင့်ဖြစ်ကြသော် သူသည် အပ်ကို ပေ၌စိုက်၍ တူဖြင့် တအားထုချလိုက်သည်။ ထိုအခါ အပ်သည် ပေခံကို ထုတ်ချင်းခက်

ဖောက်ထွင်းကာ ရေခွက်ထဲသို့ ကျသွားသည်။ ကျရာတွင် ရေအောက်သို့လည်း ရောက်မသွား၊ ရေမျက်နှာပြင်ပေါ်တွင်လည်း ပေါ်မနေ။ ရေလယ်တွင်သာ တည်နေသည်။

"ငါတို့သည် ဤမျှကောင်းမွန်လှသော၊ အစွမ်းထက် လှသော အပ်မျိုးကို လုပ်တတ်ရန် ဝေးစွ။ မြင်မှုပင် မမြင်ဖူးပါ။ ယခုမှသာ မြင်ဖူးပါတော့သည်"ဟူ၍ ပန်းပဲဆရာ အားလုံးက ဝန်ခံပြောဆိုကြသည်။ လက်ပမ်းပေါက်ခတ် ချီးကျူးကြသည်။

ပန်းပဲဆရာကြီးသည် လုလင်ပျို၏ ပညာအစွမ်းကို အလွန်နှစ်သက်သွားသည်။ ထိုနေရာမှာပင် မိမိ၏သမီးပျိုနှင့် လက်ထပ်ထိမ်းမြား ပေးလေသည်။ ။

မင်္ဂလာပုံပြင် — ၉

# အမြင်မတော်သူ



၉။ ဝိနယော စ သုသိက္ခိတော ၊
ဧတံ မင်္ဂလ’မုတ္တမံ ။
ရဟန်းကျင့်ဝတ်၊ လူ့ကျင့်ဝတ်ကို
စောင့်ထိန်း လိုက်နာခြင်းသည်
မြတ်သော မင်္ဂလာ မည်၏ ။

# အမြင်မတော်သူ

လွန်လေပြီးသောအခါ ဗာရာဏသီမြို့တွင် သုသာန်၌ နေသော စဏ္ဍာလ လင်မယား နှစ်ယောက် ရှိသည်။

တစ်နေ့သ၌ စဏ္ဍာလ၏ မယားသည် သရက်သီးစားချင်သော ချင်ခြင်းဖြစ်၏။ ထို့ကြောင့် ယောကျ်ားဖြစ်သူအား "အမောင်၊ ကျွန်မ သရက်သီး အလွန်စားချင်သော ချင်ခြင်း ဖြစ်နေပါသည်။ သရက်သီး ရှာဖွေပေးပါ" ဟူ၍ ပြောဆိုသည်။ ယောကျ်ားက "ရှင်မ၊ ယခု အချိန်သည် သရက်သီး ပေါ်ချိန်မဟုတ်။ သရက်သီး အဘယ်မှာ ရနိုင်မည်နည်း။ အခြားအသီးကိုသာ ပြောပါ။ ငါ ဆောင်ယူပေးမည်" ဟု ဆို၏။

မိန်းမက "အမောင်၊ သရက်သီး မစားဘဲ ကျွန်မ မနေနိုင်ပါ။ မစားရလျှင် သေရပါလိမ့်မည်။ ကြံဖန်ရှာဖွေပေးပါ" ဟူ၍ ငိုယို ပူဆာ၏။

စဏ္ဍာလ ယောကျ်ားလည်း မယားကို ချစ်လှသောကြောင့် သရက်သီး ရနိုင်မည့်နေရာကို လိုက်လံစုံစမ်းသည်။ ထိုအခါ ဗာရာဏသီ မင်း၏ ဥယျာဉ်ထဲရှိ သရက်ပင်တစ်ပင်တွင် သရက်သီး ရှိကြောင်း စုံစမ်းသိရှိရသည်။ ဤတွင် သူသည် သင့်၊ မသင့် မစဉ်းစား။ ညဥ့် အချိန်တွင် ဘုရင့်ဥယျာဉ်တော်သို့ တိတ်တဆိတ် ခိုးဝင်သည်။ သရက် ပင်များပေါ်သို့ တစ်ပင်ပြီးတစ်ပင် တက်သည်။ သရက်သီးကို ရှာ ဖွေသည်။ ယင်းသို့ ရှာဖွေဆဲမှာပင် မိုးလင်းသွားလေသည်။

ထိုအခါ သူသည် ထိတ်လန့် တုန်လှုပ်သွားသည်။ 'ငါ့ကို

အစောင့်တို့မြင်လျှင် ဖမ်းဆီး၍ ပြစ်ဒဏ် ပေးကြတော့မည်။ တစ်နေ့လုံး အပင်ပေါ်မှာပင် ပုန်းအောင်းနေမှ ဖြစ်မည်။ ညဥ့် အချိန်ကျမှ တိတ်တဆိတ် ထွက်ပြေးတော့မည်' ဟူ၍ ကြံစည်သည်။ အပင်ပေါ်မှာပင် ပုန်းအောင်းနေသည်။

ထိုအခိုက်တွင် ဗာရာဏသီမင်းသည် ပုရောဟိတ် ပုဏ္ဏားနှင့်အတူ ဥယျာဉ်ထဲသို့ ဝင်ရောက်လာသည်။ မင်းသည် ပုဏ္ဏားထံမှ ဗေဒင်သင်ယူရန် ရောက်လာခြင်းဖြစ်သည်။ သူတို့နှစ်ဦးသည် စဏ္ဍာလယောကျ်ား ပုန်းအောင်းနေသော သရက်ပင်ခြေရင်းတွင် နေရာယူကြသည်။ မင်းသည် မြင့်သောနေရာက နေလျက်၊ ပုဏ္ဏားကား နိမ့်သောနေရာ၌ နေလျက် ဗေဒင်ပညာကို သင်ပေးနေသည်။

ထိုအခြင်းအရာကို စဏ္ဍာလ ယောကျ်ား တွေ့မြင်သောအခါ အမြင်မတော် ဖြစ်မိသည်။ တစ်ခဏအတွင်းမှာပင် သူသည် မင်းနှင့် ပုဏ္ဏားတို့၏ အမှားကို မြင်သည်။ ထို့ပြင် သူ၏ အမှားကိုလည်း ဆင်ခြင်မိသည်။

ထို့ကြောင့် သူသည် သစ်ပင်ပေါ်မှ ဆင်း၍ မင်းကို ရှိခိုးလျက် လျှောက်ထားသည်။

"အရှင်မင်းကြီး၊ ကျွန်တော်မျိုးတို့ သုံးဦးလုံး အသီးသီး လိုက်နာရမည့် ကျင့်ဝတ်တို့ကို မစောင့်၊ ဖောက်ဖျက် နေကြပါသည်။ ကျွန်တော်မျိုးသည် ကျင့်ဝတ်ကို မစောင့်၊ မိန်းမ အလိုကို လိုက်၍ အရှင်မင်းကြီး၏ သရက်သီးကို ခိုးယူရန် ဥယျာဉ်တော်တွင်းသို့ ဝင်ရောက်ခဲ့မိပါသည်။ ပုရောဟိတ် ပုဏ္ဏားသည်လည်း ဗေဒင် သင်ပေးသော ဆရာဖြစ်ပါလျက် အမြင့်က မနေ၊ အနိမ့်က နေ၍ ပညာသင်ပေးနေသည်။ အရှင်မင်းကြီးသည်လည်း ယခုအချိန်တွင် ဗေဒင်သင်ယူနေသော တပည့်ဖြစ်ပါလျက် အနိမ့်ကမနေ၊ အမြင့်ကနေ၍

ပညာသင်ယူနေသည်၊ အမြင်မတော်ပါ။ အမှားကို ပြုကျင့်နေပြီ”ဟူ၍ လျှောက်ထားသည်။

ထိုအခါ ပုဏ္ဏားက “အချင်းယောကျ်ား၊ ငါသည် ဘုရင်ပေးသော ရိက္ခာငွေကို ယူ၍ ထမင်းစားနေရသူ ဖြစ်သည်။ ကျင့်ဝတ်ကို မစောင့်နိုင်။ ဘုရင့်အလိုကိုသာ လိုက်နိုင်မည်”ဟူ၍ ဆို၏။

စဏ္ဍာလ ယောကျ်ားက “အို - ဆရာပုဏ္ဏား၊ လောကကြီးမှာ ကျယ်ဝန်းလှပါသည်။ ဘုရင်မှတစ်ပါး သင့်ကို ထမင်းကျွေးနိုင်သူ မရှိပြီလော။ အရပ်တစ်ပါးသို့သွား၍ အသက်မွေးပါ။ ထမင်းမငတ်နိုင်ပါ။ ကျင့်ဝတ်ကိုမူ မဖောက်ဖျက်ပါနှင့်။ ကျောက်သည် အိုးကို ခွဲသကဲ့သို့ မဟုတ်မမှန်သော အမှုသည် သင့်ကို ပျက်စီး စေလိမ့်မည်။ မဟုတ်မမှန်သော အမှုကိုပြု၍ ရရှိသော စည်းစိမ်ဥစ္စာကို စက်ဆုပ်ပါ။ မမက်မောပါနှင့်”ဟူ၍ ပြောဆိုသည်။

ထိုစကားတို့ကို ကြားသောအခါ မင်းသည် စဏ္ဍာလယောကျ်ားကို လေးစား နှစ်သက်သွားသည်။ မျိုးမည်ကို မေးမြန်းသည်။

“အမောင်၊ သင်သည် မည်သူနည်း။”

“အရှင်မင်းကြီး၊ အကျွန်ုပ်သည် အမျိုးယုတ်ညံ့သော စဏ္ဍာလ ဖြစ်ပါသည်။”

“အမောင်၊ သင်သည် အမျိုးညံ့သော်လည်း နှလုံးကောင်းသည်။ ပညာရှိသည်။ သင့်ကို ငါ လေးစားမြတ်နိုးသည်။ ထို့ကြောင့် အပြစ်မှ ချမ်းသာခွင့် ပေးရုံမျှမက ငါ၏ မင်းစည်းစိမ်ကိုပင် ပေးလိုသည်။ သို့ရာတွင် သင်သည် စဏ္ဍာလမျိုး ဖြစ်နေသောကြောင့် မင်းအဖြစ် ပေးမရပြီ။မည်သို့ပင် ဖြစ်စေ၊ မင်းစည်းစိမ် တစ်ဝက်ကို ငါပေးမည်။ နေ့အခါသာ ငါမင်းပြုမည်။ ညအခါမူ သင်မင်းပြုပါ။”

မင်းကြီးက ဤသို့ဆိုကာ စဏ္ဍာလ ယောကျ်ားကို မြို့စောင့်

အဖြစ် ခန့်ထားသည်။ ညအခါတွင် မင်းစည်းစိမ် တစ်ဝက်ကို ပေးသည်။

မင်းကြီးသည် ထိုနေ့ ထိုအချိန်မှစ၍ ဗေဒင် သင်ယူရာတွင် ဆရာ ပုရောဟိတ် ပုဏ္ဏားကို အမြင့်နေရာတွင် ထားသည်။ မိမိ မူကား အနိမ့်နေရာတွင် နေလျက် နှိမ့်ချစွာ သင်ယူလေ၏။

မင်္ဂလာပုံပြင် – ၁၉

# ချိုသာသော စကားနှင့် နွားလိမ္မာ



၁၀ ။ သုဘာသိတာ စ ယာဝါစာ ၊
ဧတံ မင်္ဂလမုတ္တမံ ။
ချိုသာစွာ ပြောဆိုခြင်းသည်
မြတ်သော မင်္ဂလာ မည်၏ ။

# ချိုသာသော စကားနှင့် နွားလိမ္မာ

လွန်လေပြီးသောအခါ ဂန္ဓာရတိုင်း၊ တက္ကသိုလ်ပြည်၌ နေသော ပုဏ္ဏား တစ်ယောက်တွင် နွားတစ်ကောင် ရှိသည်။ နန္ဒိဝိသာလ ဟု အမည်ပေးထားသည်။ ပုဏ္ဏားသည် ထိုနွားကို ကောင်းသော နေရာ၌ ထားသည်။ ကောင်းသော အစာတို့ကို ကျွေးသည်။ သားကဲ့သို့ မွေး ကျွေးပြုစု စောင့်ရှောက်ထားလေသည်။ ထို့ကြောင့် နွားသည် ခွန်အား ဗလနှင့် အလွန်ပြည့်စုံ၏။

တစ်နေ့သော် နန္ဒိဝိသာလသည် "ပုဏ္ဏားသည် ငါ့အား ကောင်းစွာ ပြုစုစောင့်ရှောက် ကျွေးမွေးပေးသည်။ ကျေးဇူးကြီးလှသည်။ ငါ ပြန် လည် ကျေးဇူးဆပ်မည်" ဟူ၍ ကြံစည်သည်။

သို့ဖြင့် ပုဏ္ဏားအား "အရှင်ပုဏ္ဏား၊ ဤမြို့ရှိ ဂေါဝိတ္တက သူဌေး ထံ သွားပါ။ ငါ့နွားသည် တစ်စီးနှင့် တစ်စီး တွဲဆက်ထားသော ဝန်အပြည့်ပါသော လှည်းတစ်ရာကို တစ်ကောင်တည်း ဆွဲနိုင်၏ ဟု ဆို၍ အလောင်းအစား ပြုပါ။ အသပြာ တစ်ထောင်ကြေး လောင်း ပါ။ မုချ နိုင်ရပါစေမည်" ဟု ဆို၏။

ပုဏ္ဏားလည်း ဂေါဝိတ္တက သူဌေးထံ သွား၍ အလောင်းအစား ပြု၏။ ချိန်းသောနေ့တွင် ပုဏ္ဏားသည် လောင်းကြေးထပ်သည်။ ထို့ နောက် သဲ၊ ကျောက်စရစ် စသည်တို့ အပြည့်တင်ထားသော လှည်း တစ်ရာကို နန္ဒိဝိသာလအား ဆွဲစေသည်။ ထိုသို့ဆွဲစေရာ၌ ပုဏ္ဏားသည် နှင်တံကို ကိုင်မြှောက်လျက် "ဟဲ့- ကောက်ကျစ်သော နွား၊ သွား

လော့။ ဟဲ့– ကောက်ကျစ်သော နွား၊ ဝန်ကိုဆောင်လော့”ဟု ဆို၍ မောင်းနှင်လေသည်။

ထိုအခါ နန္ဒိဝိသာလသည် “ငါသည် မည်သည့်အခါမျှ ကောက်ကျစ်ခြင်း မရှိ။ သို့ပါလျက် ငါ့ကို ကောက်ကျစ်သော နွားဟု ဆိုရာသည်လော”ဟု မခံမရပ်နိုင် ဖြစ်သည်။ သို့ဖြင့် နေရာမှ မရွေ့။ လှည်းတို့ကို မဆွဲ။ စုံရပ်၍သာ နေလေသည်။

ဤတွင် ပုဏ္ဏား ရှုံးသွားသည်။ သူဌေးကို ငွေတစ်ထောင် ပေးလိုက်ရသည်။

အိမ်ပြန်ရောက်သော ပုဏ္ဏားသည် ငွေတစ်ထောင် ရှုံးသောကြောင့် မအီမသာ၊ စိတ်မချမ်းမသာ ဖြစ်လျက် အိပ်ရာထက်၌ လဲလျောင်းနေသည်။

နန္ဒိဝိသာလလည်း ပုဏ္ဏားထံ ချဉ်းကပ်၍ “အဘာယ့်ကြောင့် စိတ်မချမ်းမသာ ဖြစ်နေရသနည်း”ဟု မေး၏။

“အသပြာ တစ်ထောင် ရှုံးသည်ကို အဘာယ်မှာ စိတ်ချမ်းသာနိုင်အံ့နည်း။”

“အရှင်ပုဏ္ဏား၊ သင့်အိမ်၌ ငါနေသည်မှာ ကြာလှပြီ။ ငါ့ကြောင့် အိုးတစ်လုံး ကွဲဖူးသလော။ တစ်စုံတစ်ရာ ပျက်စီးဖူးသလော။”

“ချစ်သား၊ တစ်စုံတစ်ရာ မပျက်စီးဖူးပါ။”

“အရှင်ပုဏ္ဏား၊ ငါသည် နေရာမဟုတ်၊ စည်းမဲ့ကမ်းမဲ့ ကျင်ကြီးကျင်ငယ် စွန့်ဖူးသလော။”

“ချစ်သား၊ မစွန့်ဖူးပါ။”

“အရှင်ပုဏ္ဏား၊ ထိုသို့ဖြစ်လျက် အဘာယ့်ကြောင့် ငါ့ကို ကောက်ကျစ်သော နွား ဟု ဆိုပါသနည်း။ ထို့ကြောင့် ငါသည် စိတ်ဆိုးကာ လှည်းတို့ကို မဆွဲခြင်း ဖြစ်သည်။ သင်ရှုံးရသည်မှာ သင်၏

အပြစ်ဖြစ်သည်။ ငါ့အပြစ် မဟုတ်။ သို့ကြောင့် ယခုတစ်ဖန် သွား၍ လောင်းပါဦး။ သည်အကြိမ်တွင် အသပြာ နှစ်ထောင်ကြေး ထပ်၍ လောင်းပါ။ မုချ နိုင်ရပါစေမည်။"

ပုဏ္ဏားလည်း သူဌေး ဂေါဝိတ္တကထံ သွား၍ အလောင်းအစား ပြုပြန်သည်။ ချိန်းဆိုသော နေ့တွင် ယခင်နည်းတူပင် လှည်းတစ်ရာကို ပြင်သည်။ ထို့နောက် ပုဏ္ဏားသည် နန္ဒိဝိသာလ ကျောကုန်းကို လက်ဖြင့် သပ်ကာ "ကောင်းသောနွား၊ သွားလော့။ လိမ္မာသောနွား၊ ဝန်ကိုဆောင်လော့"ဟူ၍ ချိုသာစွာပြောဆို မောင်းနှင်သည်။ နန္ဒိဝိသာလလည်း တစ်ဟုန်ချင်းဖြင့် လှည်းတစ်ရာကို အောင်မြင်စွာ ဆွဲယူသွားလေသည်။

ပုဏ္ဏားသည် အနိုင်ရသဖြင့် လောင်းကြေး နှစ်ထောင်ကိုလည်း ရသည်။ ထို့ပြင် ဘေးမှ ဝိုင်းဝန်းကြည့်နေသော လူအများက နွားကို သဘောကျလှသဖြင့် ဝိုင်း၍ ချီးမြှောက်ကြသော ဆုငွေများကိုလည်း ရသည်။ ဝမ်းသာ အားရမဆုံး ရှိသည်နှင့်အမျှ နွားလိမ္မာကြီး နန္ဒိဝိသာလကို ကျေးဇူးတင်မဆုံးလည်း ရှိလေသည်။ ။



မင်္ဂလာဆုံမြင် — ၁၁

# သားလိမ္မာ



၁၁။ မာတာပိတု ဥပဋ္ဌာနံ၊
တော် မင်္ဂလ'မုတ္တမံ။
အမိအဖ တို့ကို ကောင်းစွာ လုပ်ကျွေးမွေးမြူခြင်းသည်
မြတ်သော မင်္ဂလာ မည်၏။

# သားလိမ္မာ

လွန်လေပြီးသောအခါ ဗာရာဏသီပြည်၌ လုလင်ပျို တစ်ယောက် ရှိသည်။ သူသည် အမိအဖ တို့ကို လွန်စွာ ချစ်မြတ်နိုး၏။ နတ်သိကြားကဲ့သို့ အမှတ်ပြု၍ ရိုသေစွာ လုပ်ကျွေး၏။ ပြုစုစောင့်ရှောက်၏။ ထို့ကြောင့် ထိုလုလင်သည် 'မာတုပေါသက ပိတုပေါသက လုလင်' ဟူ၍ အမည်တွင်လေသည်။

တစ်နေ့သောအခါ ထိုလုလင်သည် အမိအဖ တို့ကို ချမ်းသာစွာ ထားနိုင်ရန် အခကြေးငွေ ရလို၍ သင်္ဘောဖြင့် စွန့်စားလိုက်လေသည်။ ထိုသင်္ဘောသည် သီဟိုဠ်ကျွန်းသို့ ဆိုက်ကပ်သည်။ ထိုအချိန်မှာ သီဟိုဠ်ကျွန်း၌ သဲမိုးတို့ အဆက်မပြတ်ရွာကာ လူအများ အတိဒုက္ခ ရောက်နေကြသည်။ လယ်ယာစိုက်ခင်းများ ပျက်စီးကြသည်။

သီဟိုဠ်(သီရိလင်္ကာ)မင်းလည်း သဲမိုးရွာသော ကပ်မှ လွတ်မြောက်ရန် မည်သို့ပြုရမည်ကို သမားဖြူ သမားညိုတို့ကို ခေါ်၍ မေးမြန်းသည်။

သမားဖြူ သမားညိုတို့က "အရှင်မင်းကြီး၊ ဤသဲမိုးရွာသော ကပ်သည် အလွန်ထူးခြားသော သစ္စာကိုပြုလျှင် ပျောက်ပါလိမ့်မည်" ဟူ၍ လျှောက်တင်ကြ၏။

"အဘယ် သစ္စာကို အဘယ်သူအား ပြုစေရမည်နည်း" ဟူ၍ မင်းကမေးမြန်း၏။

"အရှင်မင်းကြီး၊ အမိ အဖ တို့ကို နတ်သိကြားကဲ့သို့ ယူမှတ်၍

လုပ်ကျွေးသောသူကို သစ္စာပြုစေရပါမည်” ဟူ၍ သမားဖြူ သမာ ညီတို့က လျှောက်၏။

မင်းလည်း “အမိအဖတို့ကို နတ်သိကြားကဲ့သို့ ယူမှတ်၍ ရှိသေ စွာ လုပ်ကျွေးသူကို များစွာဆုလာဘ်ပေးမည်။ မောင်းခတ်၍ ရှာလေ’ ဟူ၍ အမိန့်တော်ရှိ၏။

မှူးမတ်တို့လည်း မောင်းကြေးနင်းခတ်၍ ရှာကြသည်။ တစ်ပြည် လုံးတွင် တစ်ယောက်မျှ မရှိ။ အခက်တွေ့နေကြသည်။

ထိုအခါ မာတုပေါသက ပိတုပေါသက လုလင်သည် သဘော် ထက်က နေ၍ “အို–အချင်းတို့၊ ငါသည် အမိအဖ တို့ကို နတ်သိကြား ကဲ့သို့ ယူမှတ်၍ ရှိသေစွာ လုပ်ကျွေးသူတည်း”ဟု လှမ်းအော်ပြော သည်။

မှူးမတ်တို့လည်း မင်းကြီးအား ထိုအကြောင်းကို လျှောက်ထား သည်။ ထိုအခါ မင်းကြီးက “ထိုသူကို ခေါ်၍ သစ္စာဆိုစေလော့”ဟူ၍ မိန့်တော်မူလိုက်သည်။

မှူးမတ်တို့သည် လုလင်ထံသွား၍ သူတို့၏ ဒုက္ခကို ပြောပြ သည်။ ထိုဒုက္ခမှ လွတ်မြောက်အောင် သစ္စာဆိုပါရန်လည်း ပန်ကြား ကြသည်။

ထိုအခါ မာတုပေါသက ပိတုပေါသက လုလင်လည်း သဘော် ဦးသို့ တက်ပြီးလျှင် “ငါသည် လူလားမြောက်ကာ သိမြင်လိမ္မာသည်မှ စ၍ အမိ အဖ နှစ်ပါးတို့၏ ကျေးဇူးကို အောက်မေ့ ဆင်ခြင်ခဲ့သည်။ ကြည်ညို မြတ်နိုးမဆုံး ရှိခဲ့သည်။ ထို့ကြောင့် အမိ အဖ နှစ်ပါးတို့ကို မငတ်မမွတ်၊ မနွမ်း မနယ်စေရ။ အိမ်ဦးနတ်ကဲ့သို့ လည်းကောင်း၊ သိကြားမင်း၊ ဗြဟ္မာမင်း ကဲ့သို့လည်းကောင်း အမှတ်ထား၍ ရှိသေစွာ လုပ်ကျွေးမွေးမြူသူ မှန်ပါသည်။ ဤသစ္စာအတိုင်း ဟုတ်မှန်ပါက

ဤသဲမိုးသည် ချက်ချင်း ရပ်ပါစေသတည်း။ ဤသဲမိုးရပ်သဖြင့် ပြည်သူပြည်သား၊ မင်း၊ မှူးမတ်၊ ပုဏ္ဏား၊ သူဌေး၊ သူကြွယ်၊ ကုန်သည် လယ်လုပ်မှ စ၍ သတ္တဝါအားလုံး ချမ်းသာ ကြပါစေသတည်း" ဟူ၍ သစ္စာပြုသည်။

ထိုသို့ သစ္စာပြုသော ခဏမှာပင် သဲမိုးသည် ရပ်လေ၏။ အားလုံး ချမ်းသာရာ ရကြလေသည်။

ထိုအခါ မင်းနှင့်တကွ မှူးမတ်၊ ပုဏ္ဏား၊ သူဌေး၊ သူကြွယ်၊ ကုန်သည် လယ်လုပ်မှစ၍ ပြည်သူပြည်သားတို့သည် လုလင်အား များပြားလှစွာသော ပစ္စည်းဥစ္စာတို့ဖြင့် ပူဇော်ကြသည်။ လုလင်သည် ထိုပစ္စည်းဥစ္စာတို့ကို သင်္ဘောငါးစင်းဖြင့် တင်၍ အိမ်သို့ပြန်ခဲ့သည်။ ရောက်သော် အမိ အဖ တို့အား အကျိုးအကြောင်း ပြောပြကာ ရရှိသော ပစ္စည်းများဖြင့် ပူဇော်လေသည်။ သူတို့သုံးဦးသည် ဒါနကောင်းမှု စသည်များကို ပြု၍ ချမ်းမြေ့စွာ နေထိုင်သွားကြသည်။ စုတေသော အခါ နတ်ပြည်သို့ လားကြလေသတည်း။ ။

မင်္ဂလာပုံပြင် – ၁၂

# သုဇာတာ၏ သစ္စာ



၁၂။ ပုတ္တဒါရဿ သင်္ဂဟော ၊
တေံ မင်္ဂလ'မုတ္တမံ ။
သားမယားကို ကောင်းစွာ ကျွေးမွေးစောင့်ရှောက်ခြင်းသည်
မြတ်သော မင်္ဂလာ မည်၏။

# သုဇာတာ၏ သစ္စာ

ရှေးသရောအခါ ဗာရာဏသီပြည့်ဝယ် ဗြဟ္မဒတ်မင်းသည် မင်းပြု၏။ ထိုအခါ ဗာရာဏသီပြည်၏ အနောက်နိဂုံးရွာ၌ သုဒဿန အမည်ရှိသော ပုဏ္ဏားသည် သုဇာတာ အမည်ရှိသော ဇနီးနှင့် အတူ ပေါင်းသင်းနေထိုင်၏။

သူတို့ ဇနီးမောင်နှံတွင် သားသမီးသုံးယောက် ထွန်းကားသည်။ သုဇာတာသည် သားသမီးသုံးယောက် မွေးဖွားသော်လည်း ရုပ်ရည် မကျ။ နုပျို၏။ အလွန် လှပချောမော၏။

သုဒဿနသည် ဇနီးသုဇာတာနှင့် သားသမီးတို့ကို အလွန်ချစ်ခင် မြတ်နိုး၏။ သစ္စာစောင့်ထိန်း၏။ မညှိုးမငယ်၊ မနွမ်းမနယ်စေရ။ ကောင်းစွာ လုပ်ကိုင်ကျွေးမွေး၏။ ထို့အတူ သုဇာတာ သည်လည်း ခင်ပွန်း သုဒဿနနှင့် သားသမီးတို့ကို အလွန် ချစ်ခင်မြတ်နိုး၏။ သစ္စာစောင့်ထိန်း၏။ ကောင်းစွာ ပြုစုလုပ်ကျွေး၏။

တစ်နေ့သ၌ သုဒဿနနှင့် သုဇာတာတို့သည် ဗာရာဏသီမြို့ရှိ အဆွေအမျိုးတို့ကိုတွေ့ရန် လှည်းဖြင့် အတူသွားကြသည်။ မြို့အနီးသို့ ရောက်သောအခါ သုဇာတာသည် လှည်းပေါ်မှ ဆင်းသည်။ အဝတ် တန်ဆာကို ကောင်းစွာဆင်မြန်း၍လှည်း နောက်က ခြေကျင်လိုက်ပါ လာသည်။

ထိုအချိန်တွင် ဗြဟ္မဒတ်မင်းသည် ဆင်စီးလျက် မြို့ကိုလှည့် သည်တွင် သုဇာတာကို မြင်လေသည်။ အလွန်နှစ်သက်သဖြင့် မင်းချင်း တစ်ယောက်ကို စေလိုက်သည်။ လင်ရှိ၊ မရှိ မေးစေသည်။

သုဇာတာကလည်း "ကျွန်မမှာ အိမ်ထောင်ရှင် ဖြစ်ပါသည်။ လှည်းပေါ်တွင် ခင်ပွန်းဖြစ်သူ အတူ ပါလာပါသည်"ဟူ၍ ပြော ပြသည်။

မင်းချင်းလည်း အဖြစ်မှန်ကို လျှောက်ထားသည်။ မင်းသည် အကျင့်ပျက်သောမင်း ဖြစ်ရကား၊ လင်ရှိသော်လည်း သုဇာတာကို ရအောင်ယူမည်ဟု ကြံစည်သည်။ မင်းချင်းအား "သည်လှည်း မည် သည့်အရပ်တွင် ရပ်နားသည်ကို လိုက်၍ ကြည့်ချေ"ဟု စေလိုက်သည်။

မင်းချင်းသည် ဘုရင် စေခိုင်းချက်အရ လှည်းရပ်နားသော နေရာကို မှတ်သား၍ ပြန်ခဲ့သည်။

မင်းလည်း ညဥ့်အခါ၌ မင်းချင်းအား မိမိ၏ မကိုဋ်တော်ကို သုဒဿန၏ လှည်းပေါ်သို့ တိတ်တဆိတ် သွားရောက် ချထားစေ သည်။ နံနက်မိုးသောက်သောအခါ မှူးမတ်တို့အား "မြို့တံခါး လေး ချက်နှာကို ပိတ်၍ အထွက်အဝင် မရှိအောင် ပြုကြ။ မကိုဋ်တော် ပျောက်သည် ဟု ကြွေးကြော်၍ ရှာကြ"ဟူ၍ စေသည်။

မှူးမတ်တို့သည် မကိုဋ်တော်ကို ရှာကြသည်။ မကြာမီပင် သုဒဿန၏ လှည်းပေါ်တွင် မကိုဋ်တော်ကို တွေ့သည်။ ထိုအခါ သုဒဿနကို ဖမ်းယူ၍ မင်းကြီးလက်သို့ အပ်သည်။

မင်းက "ဤခိုးသူကိုသတ်မည်"ဆိုကာ သုသာန်သို့ ယူဆောင် သွားစေသည်။ မိမိကိုယ်တိုင် သတ်ရန် ဆင်စီး၍ နောက်မှ လိုက် သွားသည်။

ထိုအခါ သုဇာတာသည်လည်း ငိုကြွေးလျက် နောက်မှလိုက်သည်။ သုသာန်သို့ရောက်သောအခါ သုဇာတာက "ငါ၏ လင်သည် ခိုးသူ မဟုတ်။ အပြစ်မရှိ။ ငါ၏ လင်သည် ငါမှ တစ်ပါး မည်သည့် မိန်းမ ကိုမျှ မကျူးမလွန် မဖောက်မပြန်၊ သစ္စာစောင့်ထိန်းသူ ဖြစ်သည်။

မယားနှင့် တကွ သားသမီးတို့ကို မညှိုးမငယ်၊ မနွမ်းမနယ်စေရ။ ကောင်းစွာ လုပ်ကျွေးမွေးမြူသူ ဖြစ်သည်။ ငါသည်လည်း ငါ့လင်မှ တစ်ပါး မည်သည့် ယောကျ်ားနှင့်မျှ ဖောက်ပြန်ကျူးလွန်ခြင်း မရှိ။ ငါ့လင်နှင့် ငါ့သားသမီးတို့ကို ကောင်းစွာ ပြုစု စောင့်ရှောက်သူ ဖြစ်သည်။ ဤသစ္စာအတိုင်း ဟုတ်မှန်ပါလျှင် ငါ့လင်ကို ကယ်သူ ပေါ်ပါစေသား”ဟု သစ္စာဓိဋ္ဌာန်ပြုသည်။

သစ္စာပြုသည့် တစ်ခဏအတွင်းမှာပင် သိကြားမင်း ဆင်းလာသည်။ ဗြဟ္မဒတ်မင်းကို ဆင်ထက်မှ တွန်းချ၍ သတ်လိုက်သည်။ သုဒဿနနှင့် သုဇာတာတို့ကို ဆင်ပေါ်သို့တင်သည်။ ကိုယ်တိုင်ပင် ရာဇဘိသိက် သွန်းပေး၍ “ဟယ်- မှူးမတ်ပြည်သူတို့၊ မတရားသော မင်းကို ငါဖယ်ရှား၍၊ တရားစောင့်သော သူကို ငါမင်းမြှောက်လိုက်ပြီ။ သင်တို့ ရိုသေစွာ အမှုထမ်းကြလော့”ဟူ၍ ဆိုကာ ကွယ်ပျောက်သွားလေသည်။

မှူးမတ်ပြည်သူတို့လည်း သုဒဿနမင်းကို ရိုသေစွာဆက်ဆံ၍ အမှုထမ်းကြသည်။ မင်းအဆုံးအမကို လိုက်နာကြသည်။ သုဒဿနမင်းကလည်း မင်းကျင့်တရား ၁၀–ပါးနှင့်အညီ မင်းပြုရာ တစ်ပြည်လုံး သာယာငြိမ်းချမ်း ကြည်ရွှင်ကြလေသည်။



# ဝီရိယရှင်



၁၃။ အနာကုလာ စ ကမ္မန္တာ၊
စေတံ မင်္ဂလ'မုတ္တမံ။
ရှုပ်ထွေးမှုကင်းလျက် သန့်ရှင်း
သပ်ရပ်စွာ အလုပ်လုပ်ခြင်းသည်
မြတ်သော မင်္ဂလာ မည်၏။

မှတ်ချက်။ ။ အချိန်ကို သိနားလည်ခြင်း၊ သင့်လျော်အောင် ပြုစတတ်ခြင်း၊ မပျင်းရိခြင်း၊ လုံ့လရှိခြင်း၊ ပျက်စီးအောင် မပြုခြင်းတို့သည် ရှုပ်ထွေးမှုကင်းလျက် သန့်ရှင်း သပ်ရပ်စွာ အလုပ် လုပ်ခြင်းတွင် အကျုံးဝင်ပေသည်။

# ဝီရိယရှင်

တစ်ရံရောအခါ ဗာရာဏသီပြည်မှ လှည်းမှူးကြီး တစ်ဦးသည် လှည်းသားငါးရာကို ဦးဆောင်၍ ကုန်သွယ်သွားသည်။ သူတို့သည် ကျယ်ဝန်းလှသော သဲကန္တာရကြီးကို ဖြတ်သန်းသွားရသည်။

သဲကန္တာရမှာ နေ့အခါ ပူပြင်းလှသောကြောင့် လှည်းသားတို့သည် ခရီးမသွားနိုင်။ တဲဆောက်၍ နားနေကြရသည်။ ညဘက်သို့ ရောက်သောအခါတွင်မှ ကြယ်များကို ကြည့်လျက် လမ်းညွှန်သူ၏ အကူအညီဖြင့် သွားကြရသည်။

ဤသို့ သွားရာမှ သဲကန္တာရ ခရီးဆုံးရန် တစ်ညသာ လိုတော့သည့်အထိ ခရီးပေါက်လာခဲ့သည်။ ဤတွင် နောက်ဆုံးည ခရီး ဖြစ်သဖြင့် ထိုညအတွက် ညစာစားပြီးနောက် ထင်း၊ ရေ စသည်တို့ကို စွန့်ပစ်ကာ ခရီးဆက်ကြသည်။ လမ်းညွှန်သူသည် ညများစွာ မအိပ်ရသဖြင့် ပင်ပန်းနွမ်းနယ်ကာ အိပ်ပျော်သွားလေသည်။ ထိုအခါ လမ်းမှားပြီးလျှင် လာခဲ့သည့် လမ်းအတိုင်း ပြန်၍လာမိကြသည်။ လမ်းညွှန်သူသည် အရုဏ်တက်မှ နိုးသည်။ လမ်းမှားနေပြီကို သိသဖြင့် "ပြန်လှည့်ကြ၊ ပြန်လှည့်ကြ" ဟူ၍ ဆို၏။

ဤသို့ ပြော၍ လှည်းများကို ပြန်လှည့်ရန် စီစဉ်နေဆဲမှာပင် နေထွက်လာသည်။ အနီးဝန်းကျင်ကို ကြည့်လိုက်သောအခါ ယမန်ညက ထွက်ခွာခဲ့ရာ စခန်းသို့ ပြန်ရောက်နေသည်ကို တွေ့ရသည်။ အားလုံးပင် စိတ်အားငယ်၍ စိတ်ဓာတ်ကျ ကုန်ကြသည်။ စိတ်ပျက်လက်ပျက်

ဖြင့် တဲဆောက်၍ အိပ်ကြသည်။ ရေမရှိသဖြင့် လူရောနွားပါ ဒုက္ခ ရောက်တော့မည့် အခြေသို့ ရောက်နေသည်။

ထိုအခါ လှည်းမှူးကြီးက "ငါ ဝီရိယလျှော့သော် အားလုံး ပျက်စီး ရှာကြတော့မည်။ မဖြစ်မနေ ငါကြိုးစားမှ ဖြစ်မည်"ဟု ဆိုကာ ရေ ရနိုင်မည့် နေရာကို လှည့်လည် ရှာဖွေသည်။ မကြာမီ နေစာမြက် တစ်ခုကို တွေ့မြင်သည်။

'သည်နေရာတွင် ရေရှိရမည်'ဟူ၍ တွက်ဆကာ လှည်းသားများ အား တူးစေသည်။

လှည်းသားများသည် ကြိုးစားတူးဖော်ကြသည်။ အတောင်- ၆၀ အရောက်တွင် ရေမတွေ့ဘဲ ကျောက်ဖျာကြီးကို တွေ့လေသည်။ စိတ်ပျက်၍ အားလျှော့ကြသည်။

လှည်းမှူးကြီးကား အားမလျှော့။ တွင်းထဲသို့ ဆင်း၍ ကျောက် ဖျာကို နားဖြင့်ကပ်လျက် ထောင်၏။ ထိုအခါ ရေစီးသံကို ကြားရ သည်။ ချက်ချင်း တွင်းပေါ်သို့ ပြန်တက်ကာ တပည့်လုလင် တစ်ဦး အား "အမောင်- စိတ်မလျှော့နှင့်။ စိတ်လျှော့လျှင် အားလုံးပျက်စီး ကြလိမ့်မည်။ ဤသံတူဖြင့် ကျောက်ဖျာကို ကြိုးစားထုခွဲပါ။ ဝီရိယ အကျိုးကို ငါတို့ မုချ ခံစားရလိမ့်မည်"ဟူ၍ ဆို၏။

လုလင်လည်း လှည်းမှူးကြီး၏ စကားကို နာယူသည်။ သံတူဖြင့် ကျောက်ဖျာကို ထုခွဲ၏။ ခေါကွဲသော ကျောက်ဖျာကွဲ၍ ရေများ ဒလဟော ထွက်လာလေသည်။

လှည်းသမားတို့လည်း ဝမ်းမြောက်ဝမ်းသာ ဖြစ်သွားကြသည်။ ရေကို သုံးစွဲ၍ ထမင်းချက်စားကြသည်။ နေဝင်သော် ခရီးဆက်ကြရာ သိကန္တာရကို လွန်မြောက်၍ အလိုရှိရာ အရပ်သို့ ရောက်ရှိကြ လေသည်။ ။

မင်္ဂလာပုံပြင် - ၁၄

# တိဿ၏ စေတနာ



၁၄။ ဒါနဉ္စ ၊
ဧတံ မင်္ဂလ'မုတ္တမံ ။
ပေးကမ်း လှူဒါန်းခြင်းသည်
မြတ်သော မင်္ဂလာ မည်၏။

# တိဿ၏စေတနာ

လွန်လေပြီးသောအခါ ရွာတစ်ရွာ၌ တိဿ အမည်ရှိသော သူဆင်းရဲ တစ်ယောက် ရှိ၏။ ထိုသူဆင်းရဲတွင် ဇနီးနှင့် သမီးလည်း ရှိ၏။

တစ်နေ့သောအခါ ရွာသူရွာသား အပေါင်းသည် ဆွမ်းနွေး တိုင်ပင်၍ သံဃာတော်တို့ကို ပင့်၏။ အသီးသီး အလှည့်ကျ ဆွမ်းလောင်းကြ၏။ တိဿတို့ အလှည့်သို့ ရောက်သောအခါ ဆင်းရဲလှသောကြောင့် ဆွမ်းကောင်း မလောင်းနိုင်။ ဖုန်းရည်ဖတ်ကိုသာ လောင်းလှူနိုင်ကြသည်။

ထိုအခါ သံဃာတို့သည် ဖုန်းရည်ဖတ်ကို မဆုံးဆောင်။ ရွာစွန်၌ စွန့်ပစ်ခဲ့ကြ၏။ ထိုအကြောင်းကို တိဿသိသော် စိတ်မချမ်းမသာ ဖြစ်မိ၏။

"ငါတို့၏ ဆွမ်းမှာ ညံ့ဖျင်းလှသဖြင့် သံဃာတို့ မသုံးဆောင်နိုင်ပါတကား"ဟူ၍ ဇနီးနှင့် သမီးကို ပြောပြ၏။

ထို့နောက် သမီးအား "ချစ်သမီး၊ သူဌေးအိမ်တွင် ညည်းကို အသပြာငါးရာဖြင့် အပေါင်ထား၍ နို့စားနွားမတစ်ကောင် ဝယ်ပါရစေ၊ သံဃာတို့ကို နို့ဆွမ်းလှူရသော် လွန်စွာ အကျိုးရှိလိမ့်မည်"ဟူ၍ ဆို၏။

သမီးကလည်း "ကောင်းပါပြီဖခင်" ဟုဆိုကာ အကြည်အသာ လက်ခံ၏။ သို့ဖြင့် တိဿသည် သူဌေးထံ သမီးကို ခေါ်သွားသည်။ အသပြာ ငါးရာဖြင့် ပေါင်သည်။ ထို့နောက် နို့စားနွားမ တစ်ကောင် ဝယ်သည်။ နွားမကို အိမ်သို့ ယူဆောင်လာပြီးလျှင် ဇနီးအား အပ်နှံ မှာကြားသည်။

"ရှင်မ၊ ဤနို့စားနွားမကို နို့ညှစ်၍ သံဃာတော်တို့အား မပြတ်လှူဒါန်းပါ။ ငါကား သမီးကို ရွေးရအောင် အခြားတစ်မြို့ တစ်ရွာသို့သွား၍ အလုပ်လုပ်ကိုင်ကာ ငွေရှာတော့မည်" ဟူ၍ ဆို သည်။

ထို့နောက် အခြားတစ်မြို့ တစ်ရွာသို့ သွား၍ အလုပ်ရှာဖွေသည်။ ကံအားလျော်စွာ အလုပ်ရရှိပြီး ငွေစုနိုင်သည်။ ၆–လခန့် ကြာ၍ အသပြာငါးရာ စုဆောင်းမိသောအခါ မိမိရွာသို့ ပြန်လာခဲ့သည်။

လမ်းခရီးတွင် နေ့ညမပြတ် တရားဘာဝနာ စီးဖြန်းသော ရဟန်းတစ်ပါးနှင့် တွေ့သည်။ စကားပြောကြလျက် အတူလာကြသည်။ အချိန်တန်၍ နေကို မျှော်ကြည့်သော် မွန်းတည့်ခါနီး ဖြစ်နေသည်။

တိဿက ရဟန်းတော်အား "အရှင်ဘုရား၊ ဆွမ်းပါ၏လော" ဟူ၍ မေးလျှောက်၏။ ရဟန်းတော်ကလည်း "ဆွမ်းမပါ" ဟူ၍ ဆို၏။

"အရှင်ဘုရား၊ သည်နေရာတွင် ခဏ စောင့်ဆိုင်းတော်မူပါ။ တပည့်တော် ဆွမ်းသွားရှာပါမည်" ဟူ၍ တိဿက ဆိုသည်။ ထို့နောက် ဆွမ်းသွားရှာရာ တစ်နေရာတွင် ယောက်ျားတစ်ယောက်ကို တွေ့သည်။ ထိုယောက်ျားသည် ထမင်းထုပ်ကို ထမ်းလျက် လာသည်။ တိဿက "အဆွေ – ထမင်းထုပ်ကို ရောင်းပါ" ဟု ဆို၏။

ထိုယောက်ျားက "အသင် အသပြာ မည်မျှ ပေးမည်နည်း" ဟူ၍ မေး၏။ တိဿက "တစ်သပြာပေးမည်" ဟု ဆို၏။ ယောက်ျားက "မရောင်းနိုင်" ဟု ဆို၏။ တိဿလည်း တစ်ဆင့် တစ်ဆင့်တက်၍ ပေးသည်။ နောက်ဆုံး၌ အသပြာငါးရာကို ပုံ၍ပေးကာ "အဆွေ– ငါ၌ သည့်အပြင် အားမရှိပါ။ ရောင်းပါတော့" ဟူ၍ တောင်းပန်၏။ ယောက်ျားလည်း အသပြာငါးရာကိုယူကာ ထမင်းထုပ်ကို ပေးလိုက်သည်။

တိဿလည်း ရဟန်းတော်ထံ အဆောတလျင် ပြေးလာပြီးလျှင် ဆွမ်းကို ကပ်လေသည်။ ရဟန်းတော်လည်း ဆွမ်းဘုဉ်းပေးပြီးလျှင် အတူထ၍ သွားကြသည်။ လမ်းတွင် ရဟန်းတော်က ဆွမ်းမည်သို့ ရခဲ့သည်ကို မေးတော်မူသည်။ တိဿကလည်း သမီးကိုရွေးရန် ဖြေ လတိုင် အသပြာငါးရာရအောင် ရှာဖွေစုဆောင်းခဲ့ရပုံ၊ ယခု ထမင်းထုပ်ကို အသပြာငါးရာစလုံး ပေး၍ ဝယ်ခဲ့ရပုံ၊ ရဟန်းတော်ကို ဆွမ်းကပ်ခွင့်ရသဖြင့် ဝမ်းသာကြည်နူးရပုံတို့ကို ပြောပြ လျှောက်ထားသည်။

ရဟန်းတော်သည် တိဿကို ကြည့်ကာ အံ့ချီးမဆုံး ရှိသည်။ 'အံ့ဖွယ်ပြုနိုင်ခဲသော ကောင်းမှုကိုပြုသည့် ယောကျ်ားပေ တကား။ သည်ယောကျ်ားကို အကျိုးဖြစ်အောင် ငါဆောင်ရွက်မှ သင့်တော့မည်' ဟူ၍ ကြံရွယ်တော်မူသည်။ သို့ဖြင့် တိဿ၏ အမည်နှင့် တိဿ နေထိုင်ရာ ရွာ၊ တိဿ၏ ဇနီး၊ တိဿ၏ သမီး စသည်တို့ အမည်ကို မေးမြန်းတော်မူသည်။ တိဿကလည်း မေးမြန်းချက်ကို ကျနစွာ ပြောပြလျှောက်ထားသည်။ "အရှင်ဘုရား၊ ခရီးကြုံလျှင် တပည့်တော်ထံ ဝင်တော်မူခဲ့ပါ" ဟူ၍လည်း လျှောက်ထားသည်။

လမ်းဆုံတစ်နေရာသို့ ရောက်သောအခါ တိဿသည် မိမိရွာဘက်ဆီသို့ ခွဲသွားသည်။ ရဟန်းတော်မှ မင်းနေပြည်တော် ရှိရာသို့ ဆက်လက် ကြွမြန်းတော်မူသည်။

ရဟန်းတော်သည် မင်းနေပြည်သို့ ရောက်သောအခါ မင်းဆရာတော် သီတင်းသုံးရာ ကျောင်းသို့ ဝင်ရောက် တည်းခိုသည်။ မင်းဆရာတော်လည်း ရဟန်းတော်၏ ရုပ်လက္ခဏာကို ကြည့်ကာ "အလွန်အကျင့်မြတ်သော ရဟန်းပေတည်း" ဟု ဆိုကာ ကျောင်းဦးဌ ထားသည်။ မြတ်သော အိပ်ရာ၊ နေရာကို ပေးသည်။

ရဟန်းတော်သည် ညဉ့်သုံးယံပတ်လုံး ကမ္မဋ္ဌာန်းကို ကြိုးစား အားထုတ်သည်။ အရုဏ်မတက်မီပင် အရဟတ္တဖိုလ်သို့ ရောက်၍ ရဟန္တာ ဖြစ်သွားသည်။ အရုဏ်တက်သောအခါ မင်းဆရာတော်အား ခေါ်သည်။

"ငါ့ရှင်၊ ငါကား သက်တမ်းကုန်ပြီ။ ပရိနိဗ္ဗာန် ပြုတော့မည်။ ငါနှင့် ပတ်သက်၍ အရေးအကြောင်း ပေါ်လာလျှင် ငါ့ဒါယကာ တိဿကို ခေါ်ပါ။ ထိုသူ့ကို နိုင်းလျှင် လိုတိုင်းပြည့်လိမ့်မည်" ဟူ၍ ဆိုကာ တိဿ နေထိုင်ရာရွာနှင့် ဇနီး၊ သမီးတို့၏ အမည်တို့ကို ပြောပြတော်မူသည်။ ထို့နောက် အရုဏ်ရင့်သောအခါ ပရိနိဗ္ဗာန်ပြု လေသည်။

မင်းဆရာတော်လည်း ရဟန္တာမြတ် ပရိနိဗ္ဗာန်ပြုကြောင်း မင်းကို အကြောင်းကြားသည်။ မင်းလည်း မှူးမတ်၊ သူဌေး၊ သူကြွယ် အပေါင်း ခြံရံလျက် ကျောင်းသို့ လာသည်။ တင့်တယ်သော ကြာကာလ ပဲထော်ကို လုပ်ပြီးလျှင် ရဟန်းတော်၏ အလောင်းတော်ကို တင်မည်ပြုသည်။ ထိုအခါ တင်၍ မရ။ မ,၍ မကြွ။ ကျောက်စာတိုင်ကဲ့သို့ နိုင်မြဲနေသည်။

သည်တွင် မင်းဆရာတော်က ရဟန်းတော် ပရိနိဗ္ဗာန် မပြုမီ မှာခဲ့သောစကားကို သတိရသွားသည်။ "ရဟန်းတော်၏ ဒါယကာ တိဿကို ခေါ်၍နိုင်းလျှင် အလိုပြည့်လိမ့်မည်" ဟူ၍ ပြောပြသည်။

မင်းလည်း တိဿနေသောရွာသို့လွှတ်၍ တိဿကိုခေါ်စေသည်။ တိဿရောက်လာလျှင် ဘုရင်က "ဟယ်- တိဿ၊ သင့်ဆရာ ဟုတ် မဟုတ် ကြည့်လော့" ဆိုကာ အလောင်းတော်ကို ပြသည်။

တိဿလည်း အလောင်းတော်၏ မျက်နှာတော်ကို ဖွင့်၍ကြည့်ကာ ငိုယိုရှာသည်။ "ကျွန်တော်မျိုး၏ ဆရာပင် ဖြစ်ပါသည်" ဟူ၍လည်း လျှောက်ထားသည်။

မင်းလည်း တီသဲကို အသပြာ တစ်ထောင် စုပုံပေးပြီးလျှင် အလောင်းတော်ကို မ,၍ ကြာကာလ ပ်ပေါ်သို့ တင်စေသည်။ သို့ရာတွင် မ,၍ မရပေ။ ထိုအခါ အသပြာ တစ်ဆင့်၊ တစ်ဆင့် ထပ်၍ ပေးကာ မ,စေသည်။ မရ။ နောက်ဆုံး အသပြာတစ်သောင်း စုပုံ ပေးသော အခါတွင်မှ အလောင်းတော်သည် တီသဲလက်နှင့် ထိရုံမျှဖြင့် သစ်ရွက်ခြောက်ပမာ ပေါ့ပါးစွာ ကြာကာလ ပ်ပေါ်သို့ အလိုလို ရောက်ရှိသွားလေသည်။

မင်းလည်း တီသဲအား မယားနှင့် သမီးတို့ကိုပါ ခေါ်စေသည်။ အစားအသောက် အဝတ်တန်ဆာပေး၍ အလောင်းတော်ကို စောင့်ရှောက်စေသည်။ မင်းနှင့်တကွ မှူးမတ်၊ သူဌေး၊ သူကြွယ်တို့လည်း တလားကြီး၊ တလားငယ်၊ ပြာသာဒ်ရထား လုပ်ဆောင်သည်။ ထို့နောက် အလောင်းတော်ကို တလားထက် တင်ပြန်သည်။ တင်၍ မရ။ တီသဲကို အသပြာ တစ်သောင်းနှစ်ထောင် စသည်ဖြင့် တိုး၍ ပေးမှ အလောင်းတော်ကို တလားထက်သို့ တင်နိုင်သည်။ အလောင်းတော်ကို သင်္ဂြိုဟ်ပြီးသော အခါတွင်ကား တီသဲသည် အသပြာ သုံးကုဋေ ခြောက်သန်း ရရှိလေသည်။ ချက်ချင်းပင် သူဌေးကြီး ဖြစ်သွားလေသည်။

မင်းလည်း ရဟန်းတော်ကို သင်္ဂြိုဟ်ရာမှ ရရှိသော ဓာတ်တော်တို့ကို စေတီတည်၍ ကိုးကွယ်ထားလေသည်။ ။

# ဓမ္မပါလ သတို့သား



၁၅။ ဓမ္မစရိယာ စ ၊
ဧတံ မင်္ဂလ'မုတ္တမံ။
ကောင်းမြတ်သော သုစရိုက် တရားတို့ကို ကျင့်ခြင်းသည်
မြတ်သော မင်္ဂလာ မည်၏။

# ဓမ္မပါလ သတို့သား

ရှေးသရောအခါ ကာသိတိုင်း၌ ဓမ္မပါလမည်သော ရွာသည် ရှိ၏။ ထိုဓမ္မပါလ ရွာသားတို့သည် အလှူပေးခြင်း၊ သီလ ဆောက်တည်ခြင်း၊ တရားထိုင်ခြင်း စသော ကုသိုလ်ကောင်းမှုတို့ကို အမြဲပြု၏။

ထိုရွာ၌ မဟာဓမ္မပါလ အမည်ရှိသော ပုဏ္ဏားကြီးသည် ရှိ၏။ ထိုပုဏ္ဏားကြီးတွင် သားတစ်ယောက်ရှိ၏။ ဓမ္မပါလ သတို့သားဟု တွင်၏။ ထိုဓမ္မပါလ သတို့သားသည် အရွယ် ရောက်သောအခါ ဖခင်ပုဏ္ဏားကြီးက သူ့ကို တက္ကသိုလ်ပြည်သို့ ပညာသင် စေလွှတ်၏။

"ချစ်သား၊ တက္ကသိုလ်ပြည်၊ ဒိသာပါမောက္ခ ဆရာကြီးထံ ပညာသွားရောက် ဆည်းပူးပါ။ ဆရာကြီးကိုလည်း ငွေအသပြာ တစ်ထောင် ပူဇော်ပါ"ဟု ဆို၍ ငွေတစ်ထောင် ပေးလိုက်၏။

ဓမ္မပါလ သတို့သားသည် တက္ကသိုလ်ဆရာကြီးထံ ရောက်လျှင် အသပြာတစ်ထောင် ပူဇော်၍ ပညာသင်ယူ၏။ ရိုးသား၍ ကြိုးစားသဖြင့် မကြာမီမှင် တပည့်ငါးရာတို့၏ အကြီးအမှူး ဖြစ်လာ၏။

တစ်နေ့သ၌ ဆရာကြီး၏ သားကြီးသည် ကွယ်လွန်သွားသည်။ ဆရာကြီး၊ ဆွေမျိုးဉာတိများနှင့် တပည့်အပေါင်းတို့သည် ကွယ်လွန်သူ သားကြီး၏ အလောင်းကို သုသာန်၌ ကောင်းစွာ သဂြိုဟ်ကြသည်။ သို့ သဂြိုဟ်ရာ၌ ဓမ္မပါလ သတို့သားမှ တစ်ပါး အားလုံးသည် ဲသည်းထန်စွာ ငိုကြွေးကြလေသည်။

သုသာန်မှ ပြန်ရောက်လာသောအခါ တပည့်တို့က "အဆွေတို့၊ ဆရာကြီး၏သားသည် အကျင့်စာရိတ္တကောင်းမွန်၍ နုပျိုငယ်ရွယ် ပါလျက် သေလွန်ရရှာပေသည်"ဟူ၍ အချင်းချင်း ဝမ်းနည်းစွာ ပြောဆိုကြ၏။

ထိုအခါ မဃပါလက နားမလည်နိုင်သဖြင့် မိတ်ဆွေများကို မေးမြန်း၏။

"အဆွေတို့၊ နုပျိုငယ်စဉ်အခါ၌ မသေသင့်ပါ။ အဘယ့်ကြောင့် သေရပါသနည်း။"

"အဆွေ မဃပါလ၊ သင်သည် သတ္တဝါတို့ သေရမြဲ ဓမ္မတာကို မသိပါသလော။"

"အဆွေတို့၊ သိပါ၏။ ငါတို့ရွာသားများနှင့် ငါတို့မျိုးရိုးစဉ်ဆက်မှာမူ နုပျိုငယ်ရွယ်စဉ် မသေ။ ကြီးရင့်အိုမင်းမှ သေပါသည်။"

"အဆွေ မဃပါလ၊ သင်တို့၏ အမျိုးအစဉ်အဆက်သည် ကြီးရင့်အိုမင်းမှ သေသည်ဆိုခြင်းမှာ အကယ် ဟုတ်မှန်ပါသလော။"

"အဆွေတို့၊ အကယ် ဟုတ်မှန်ပါသည်။"

မဃပါလနှင့် တပည့်တို့ အချီအချ ပြောနေသော စကားများကို ဆရာကြီးသည် အားလုံးကြားသိရ၏။ ထိုအခါ ဆရာကြီးသည် မဃပါလအား ခေါ်၍ "အမောင်တို့၏ အမျိုးများမှာ ငယ်ရွယ်စဉ် မသေ၊ ကြီးရင့်အိုမင်းမှ သေသည် ဆိုသည်မှာ မှန်ပါသလော" ဟူ၍ ထပ်မံ မေးမြန်း၏။

မဃပါလကလည်း "ဆရာကြီး၊ ကျွန်ုပ်သည် မှန်သောစကားကိုသာ ဆိုပါ၏"ဟု ပြန်လည် ပြောကြား၏။

ဆရာကြီးသည် 'မဃပါလကား အံ့ဖွယ်စကားကို ဆိုဘိ၏။ သူ့ အဖထံ ငါသွား၍ စုံစမ်းဦးမည်၊ အကယ်၍ ဟုတ်မှန်ပါက အသက် ရှည်ကြောင်း နည်းလမ်းကောင်းကို ငါတောင်းခံမည်'ဟူ၍ ကြံစည်၏။

ထို့နောက် မဃပါလအား "သင့်အဖထံ ငါ ကိုယ်တိုင်သွား၍ စုံစမ်းဦးမည်။ ငါမရှိခိုက် တပည့်ငါးရာကို ကောင်းစွာ ထိန်းသိမ်း၍ ပညာသင်ပေးပါ"ဟု မှာကြားကာ မဃပါလရွာသို့ ထွက်ခွာလာခဲ့သည်။

ဆရာကြီးသည် ဤသို့ ထွက်ခွာလာရာ၌ ဆိတ်ရိုးတို့ကို အိတ်တစ်ခု၌ ထည့်ပြီးလျှင် ယူဆောင်လာ၏။

မကြာမီ ဓမ္မပါလ ရွာသို့ ရောက်ရှိ၏။ မဟာဓမ္မပါလ ပုဏ္ဏား ကြီးလည်း ဒီသာပါမောက္ခ ဆရာကြီးအား ဝမ်းမြောက်ဝမ်းသာ ခရီး ဦးကြိုပြု၏။ အိမ်ပေါ်သို့ ပင့်ဆောင်၍ ကောင်းစွာ ကျွေးမွေး၏။ ကြည်သာစွာ စကားဆို၏။

ဆရာကြီးသည် ပုဏ္ဏားကြီးနှင့် ကြည်သာစွာ စကားဆိုပြီးသော အခါ "အို– ပုဏ္ဏားကြီး၊ သင့်သား ဓမ္မပါလ သတို့သားကား ပညာ ရှိ၏။ ဉာဏ်ထက်မြက်၏။ ဗေဒင်သုံးပုံနှင့် တစ်ဆယ့်ရှစ်ရပ်သော အတတ်ပညာတို့ကို တစ်ဖက်ကမ်းခပ် တတ်မြောက်၏။ သို့သော် မကြာမီကပင် ပြင်းထန်သော ရောဂါရ၍ ကွယ်လွန်ရှာပြီ။ ခပ်သိမ်း သော သင်္ခါရတို့သည် အမြဲမရှိကုန်။ စိုးရိမ် ပူဆွေးခြင်း မဖြစ်ပါနှင့်" ဟူ၍ ပြောဆို၏။

ထိုအခါ ပုဏ္ဏားကြီးသည် လက်ခုပ်လက်ဝါးတီး၍ ရယ်မောသည်။ "ဆရာကြီး၊ ကျွန်ုပ်၏ သား ဓမ္မပါလ မသေနိုင်ပါ။ တစ်စုံတစ် ယောက်သော သူ သေသည် ဖြစ်ပါလိမ့်မည်" ဟူ၍ ဆိုလေသည်။

ဆရာကြီးက "ပုဏ္ဏားကြီး၊ ယုံကြည်လော့။ သည်အရိုးတို့ကား သင့်သား၏ အရိုးများပင် ဖြစ်တော့သည်" ဟု ဆို၍ အိတ်တွင် ထည့် လာသော အရိုးတို့ကို ထုတ်ပြ၏။

"ဆရာကြီး၊ ဤအရိုးတို့ကား ဓမ္မပါလ၏ အရိုးတို့ မဖြစ်နိုင်။ ဆိတ်ရိုး၊ ခွေးရိုးတို့သာ ဖြစ်လိမ့်မည်။ ဓမ္မပါလကား မသေ။ ကျွန်ုပ် တို့ ဆွေမျိုးခုနစ်ဆက်တွင် ငယ်ရွယ်စဉ် သေဆုံးသူ ဟူ၍ တစ်ဦး တစ်ယောက်မျှ မရှိ။ သင် မုသား ဆိုဘိ၏" ဟူ၍ ပုဏ္ဏားကြီးက ဆို၏။

အနီးရှိ လူအပေါင်းတို့သည်လည်း လက်ခုပ် လက်ဝါးတီးကာ ပြင်းစွာ "ရယ်မောကြကုန်၏။

ထိုအခါမှ တက္ကသိုလ်ဆရာကြီးက ဓမ္မပါလ မသေ။ မိမိ စုံစမ်း မေးမြန်းရန် လာရကြောင်း အဖြစ်မှန်ကို တောင်းပန်ပြောဆို၏။ ထို့နောက် အသက်ရှည်ကြောင်း၊ အကြောင်းရင်းကို မေးမြန်းလေသည်။

ပုဏ္ဏားကြီးက "ဆရာကြီး၊ ကျွန်ုပ်တို့ တရားကျင့်ကြပါသည်။ သူတော်ကောင်းတို့ ကဲ့ရဲ့ဖွယ် မကောင်းမှုကို မပြုကြပါ။ မသူတော် တရားနှင့် သူတော်ကောင်း တရား နှစ်မျိုးလုံးကို နာကြပါသည်။ သူတို့နှင့် မဆန့်ကျင်အောင် နာကြသော်လည်း မသူတော်တရားများ ကို လုံးဝလက်မခံကြပါ။ သူတော်ကောင်းတရားကိုသာ လက်ခံကျင့်ကြ ပါသည်။ သူတော်ကောင်းများနှင့်သာ ပေါင်းသင်းကြပါသည်။ ကျွန်ုပ် တို့သည် မလှူမီလည်း ဝမ်းသာ၊ လှူဆဲလည်း ဝမ်းသာ၊ လှူပြီးသော အခါ၌လည်း ဝမ်းသာပါသည်။ နောင်တ မဖြစ်ကြပါ။ ရဟန်း၊ ပုဏ္ဏား၊ ခရီးသည်၊ သူတောင်းစား၊ ဆင်းရဲသားတို့ကို ထမင်း၊ အဖျော်ပေးကမ်း ကြ ပါသည်။ ကျွန်ုပ်တို့၏ ဇနီးများသည် အခြားယောကျ်ားများနှင့် မမှားယွင်းပါ။ အလားတူမှင် ကျွန်ုပ်တို့ကလည်း အခြားမိန်းမများ နှင့် မမှားယွင်းကြပါ။ ကျွန်ုပ်တို့သည် အသက်မသတ်ကြ၊ မခိုးကြ၊ လိမ်မပြောကြ၊ အရက်မသောက်ကြပါ။ အမိအဖ၊ ညီအစ်ကို၊ မောင် နှမ၊ သားမယားတို့မှ စ၍ ကျေးကျွန်များအထိ အားလုံးသည် နောင် ဘဝရေးအတွက် တရားကျင့်ကြ သူချည်း ဖြစ်ပါသည်။ ထို့ကြောင့် ကျွန်ုပ်တို့ ငယ်ရွယ်စဉ် မသေကြ၊ ကြီးရင့်အိုမင်း၍ သက်တမ်း ပြည့် သောအခါမှ သေကြပါသည်"ဟူ၍ ရှင်းလင်း ပြောပြသည်။

တက္ကသိုလ် ဆရာကြီးသည် ဝမ်းမြောက်ဝမ်းသာ ဖြစ်သွားသည်။

ထိုအရာများကို မိမိတို့ ကျင့်ကြံပွားများနိုင်ရန် အတွက် ရွှေပေတွင် ရေးမှတ်သား၍ တက္ကသိုလ်ပြည်သို့ ပြန်သွားလေသတည်း။ ။



မင်္ဂလာပုံပြင် – ၁၆

# အမျိုးကို ကယ်တင်သူ



၁၆။ ဉာတကာနဉ္စ သင်္ဂဟော၊
ဧတံ မင်္ဂလ မုတ္တမံ။
အဆွေအမျိုးတို့အား ချီးမြှောက်ထောက်ပံ့ခြင်းသည်
မြတ်သော မင်္ဂလာ မည်၏။

မှတ်ချက်။ ။ ဤနေရာ၌ ဆွေမျိုးဆိုရာတွင် မိမိ၏ ဆွေမျိုးဉာတကာတို့ကို သာမက မိမိ၏ အမျိုးသားများလည်း ပါဝင်သည်။

# အမျိုးကိုကယ်တင်သူ



လွန်လေပြီးသောအခါ တောအုပ်တစ်ခု၌ မျောက်တစ်သင်း နေထိုင်၏။ မျောက်များသည် သူတို့အထဲမှ အသိအလိမ္မာရှိသော မျောက်ကြီး တစ်ကောင်ကို မင်းမြှောက်ထား၏။

ထိုတောအုပ်အနီးဝယ် ရွာငယ်တစ်ရွာ ရှိ၏။ ထိုရွာမှာ အမြဲ လူမနေ၊ အလုပ်ချိန်ကျသောအခါ လူတို့လာရောက်နေ၏။ အလုပ်ပြီးသောအခါ လူတို့ စွန့်ခွာသွားကြ၏။ ထိုရွာအလယ်၌ တည်ပင်ကြီး တစ်ပင်ရှိ၏။ ပင်စည်ကိုင်းခက်နှင့် ပြည့်စုံ၏။ ချိုမြိန် ကောင်းမွန်သော တည်သီးများသည် အချိန်ရာသီအလိုက် သီး၏။ မျောက်တို့သည် ရွာ၌ လူမရှိသောအခါ တည်သီးများကို သွားရောက်စားလေ့ရှိ၏။

တစ်ခါသော် တည်သီး သီးချိန်တွင် လူတို့ ရောက်ရှိလာ၏။ မျောက်တို့သည် တည်သီး သီးချိန်တွင် လူတို့ရောက်လာ၊ မလာ သိလိုသဖြင့် မျောက်တစ်ကောင်ကို စုံစမ်းရန် စေလွှတ်လိုက်၏။ ထိုမျောက်သည် တည်သီးတို့ အောင်မြင်စွာ သီးနေသည်ကိုလည်း မြင်၏။ လူများ ရောက်ရှိနေသည်ကိုလည်း မြင်၏။

ထိုအကြောင်းကို အဖော်မျောက်တို့အား ပြောပြသည်။ မျောက်တို့သည် တည်သီးစားလိုကြသဖြင့် အခြေအနေကို မျောက်မင်းအား တင်ပြ၏။ မျောက်မင်းက "အမောင်တို့၊ တည်ပင်သို့ မသွားကြနှင့်။ ငါတို့ကိုတွေ့လျှင် လူတို့ လာဖမ်းကြလိမ့်မည်" ဟူ၍ သတိပေး ပြောဆို၏။ သို့ရာတွင် မျောက်အများစုက မျောက်မင်း စကားကို မနာယူ။ "အရှင်၊ လူတို့ အိပ်ပျော်ချိန် သန်းခေါင်ယံတွင် သွား၍

တည်သီးစားကြလျှင် ဘေးမရှိနိုင်ပါ" ဟူ၍ အစဉ်းပူဆာ၏။ သွားရန် လည်း ပြင်ဆင်ကြ၏။ နောက်ဆုံးတွင် တားမရသဖြင့် မျောက်မင်း ကိုယ်တိုင်ပင် ဖော်မျောက်များနှင့် အတူလိုက်သွားလေ၏။

သူတို့သည် တောတွင်းတစ်နေရာတွင် ပုန်းအောင်းနေရာမှ သန်ခေါင်ယံအချိန်သို့ ရောက်သည်နှင့်တစ်ပြိုင်နက် ရွာအတွင်းသို့ တိတ်တဆိတ် ဝင်ကြ၏။ တည်ပင်ကြီးပေါ်သို့ တက်၍ တည်သီးများ ကို စားကြ၏။

ထိုအချိန်တွင် ရွာသားတစ်ယောက်သည် အိပ်ပျော်ရာမှ နိုး သွားသည်။ တည်ပင်ကြီးပေါ်တွင် မျောက်များ ရောက်နေသည်ကို သိရှိသွားသည်။ ချက်ချင်းပင် အဖော်တို့ကို နှိုး၍ပြောသည်။ ထိုအခါ ရွာသားတို့သည် အိပ်ရာမှ ထကာ လေးမြား၊ တုတ်၊ ဓား စသည်တို့ကို ကိုင်လျက် တည်ပင်ကြီးကို ဝိုင်းထားလိုက်ကြသည်။ နံနက်မိုး သောက်သည်နှင့်တစ်ပြိုင်နက် မျောက်များကို ဖမ်းဆီးရန် စီစဉ်၍ အသင့်စောင့်ဆိုင်းနေကြသည်။

မျောက်တို့သည် သေဘေးကို မြင်တွေ့ရသောအခါ လွန်စွာ ထိတ်လန့်ကြ၏။ ဆောက်တည်ရာမရ ဖြစ်ကြ၏။ မျောက်မင်းထံ ချဉ်းကပ်လျက် "အရှင်၊ အကျွန်ုပ်တို့ကို ကယ်ပါ။ လွတ်မြောက်ရန် ကြံစည်ပါ" ဟူ၍ တောင်းပန်ကြ၏။

မျောက်မင်းက "အမောင်တို့ ဆောက်တည်ရာမရ မဖြစ်ကြ နှင့်ဦး။ ယခုမှ သန်းခေါင်ယံအချိန် ရှိသေးသည်။ သည်အတွင်း ငါတို့ လွတ်မြောက်ရန် ကြံစည်နိုင်သေးသည်" ဟူ၍ ဆို၏။ ထို့နောက် မျောက်အားလုံးကို စိစစ်ကြည့်ရာ သေနက အမည်ရှိသောမျောက် ပါမလာသည်ကို သိရ၏။ သေနကသည် မျောက်မင်း၏တူ ဖြစ်သည်၊

"အမောင်တို့ မကြောက်ကြလင့်။ သေနကသည် ကျန်ရစ်ခဲ့သည်။ သေနကသည် အသိအလိမ္မာလည်းရှိသည်။ ငါတို့အားလုံးကိုလည်း ချစ်ခင်သည်။ ငါတို့ကို ဘေးရန်မှ လွတ်အောင် ကြံဆောင်ပါလိမ့်မည်။ တည်သီးများကို အဝသာ စားထားကြပါ"ဟူ၍ မျောက်မင်းက အား ပေးပြောဆို၏။

အဖော်မျောက်တို့သည် တည်ပင်ရှိရာသို့ သွားချိန်တွင် သေနက သည် အိပ်ပျော်ကျန်ရစ်၏။ နိုးသောအခါ မျောက်တစ်ကောင်ကိုမျှ မမြင်သဖြင့် ခြေရာခံ၍ လိုက်လာ၏။ ထိုအခါ မိမိ အဆွေအမျိုးတို့ ဘေးဒုက္ခနှင့် ရင်ဆိုင်တွေ့နေရသည်ကို မြင်ရသည်။ "ငါသည် ငါ့ အဆွေအမျိုးတို့ကို ကယ်ရမည်။ သူတို့ အသက်ချမ်းသာရာ ရအောင် ငါကြံဆောင်မည်"ဟု အကြံထုတ်၏။

သူသည် အကြံရသဖြင့် ရွာစွန်ရှိ တဲတစ်တဲသို့ တိတ်တဆိတ် သွား၏။ ထိုအချိန်တွင် တဲရှင် အမယ်အိုသည် မီးဖို၍ မိုင်းငင်နေ သည်။ သေနကသည် မီးဖိုမှ မီးစတစ်စကို ရုတ်တရက်ယူကာ အနီး ရှိ တဲတစ်တဲကို မီးရှို့၍ ထွက်ပြေးလေသည်။

ရွာသားတို့သည် တဲမီးလောင်သည်ကို မြင်သည်နှင့် တစ်ပြိုင် နက် မျောက်တို့ကို စွန့်လွှတ်ကာ မီးငြိမ်းသတ်ရန် ပြေးသွားကြသည်။ ထိုအခါ မျောက်မင်းနှင့် အဖော်တို့သည် တည်သီးတစ်လုံးစီ ဆွတ် ယူပြီးလျှင် တည်ပင်ပေါ်မှ ဆင်းပြေးကြသည်။ အားလုံးပင် အသက် ချမ်းသာရာရ၍ မိမိတို့ နေရာသို့ ပြန်ရောက်ကြသည်။ သူတို့သည် သေနကအား ကျေးဇူးပြုသောအားဖြင့် ယူဆောင်လာသော တည်သီး တစ်လုံးစီကို လက်ဆောင် ပေးကြလေသည်။ ။

မင်္ဂလာပုံပြင် – ၁၇

# မာဃလုလင်



၁၇။ အနဝဇ္ဇာနိ ကမ္မာနိ၊
ဧတံ မင်္ဂလ'မုတ္တမံ၊
အပြစ်မရှိသော ကောင်းမှုကို ပြုခြင်းသည်
မြတ်သော မင်္ဂလာ မည်၏။

မှတ်ချက် ။ ။ အပြစ်မရှိသော ကောင်းမှုများကား ဥပုသ်စောင့်ခြင်း၊ ဝေယျာဝစ္စ ပြုခြင်း၊ အများအရိပ် နားခိုနိုင်ရန် သစ်ပင်စိုက်ခြင်း၊ အများသုံးရန် ဥယျာဉ်တည်ခြင်း၊ တံတား ဆောက်ခြင်း၊ လမ်းပြင်ခြင်း၊ ရေတွင်း၊ ရေကန်တူးခြင်း၊ စသည့် ကောင်းမှု အလုပ်များ ဖြစ်ကြောင်း သပြေကန် ပရိတ်ကြီး နိဿယသစ်၌ ဖော်ပြထားပါသည်။

# မာဃလုလင်

လွန်လေပြီးသောအခါ မဂဓတိုင်း၊ ရာဇဂြိုဟ်ပြည်၊ မစလရွာ၌ မာဃ အမည်ရှိသော အမျိုးကောင်းသား လုလင် တစ်ယောက် ရှိသည်။ သူသည် ငါးပါးသီလ မြဲသည်။ အလှူဒါနတို့၌ မွေ့လျော်သည်။ ရပ်ရွာအကျိုးနှင့် အများကောင်းကျိုးကို ဆောင်ရွက်လေ့ရှိသည်။

မစလရွာ၌ လုလင် ၃၀-ကျိပ်၊ ၃-ယောက်လည်း ရှိ၏။ သူတို့သည် မာဃလုလင်နှင့် စိတ်တူကိုယ်မျှ ရှိကြသည်။ မာဃလုလင်နှင့် အတူ စုပေါင်း၍ ကောင်းမှုကုသိုလ်များကို လုပ်ဆောင်ကြသည်။

မာဃလုလင် ဦးဆောင်လျက် သူတို့သည် စုပေါင်း၍ လူသွားလမ်းတို့ကို ဖောက်လုပ်ကြသည်။ လည်းလမ်းတို့ကို ပြုပြင်ကြသည်။ တံတား ခင်းကြသည်။ ရေတွင်းရေကန်များ တူးကြသည်။ ဇရပ် ဆောက်ကြသည်။ အလှူ ပေးကြသည်။ သီလ ဆောက်တည်ကြသည်။ သူတို့ ကျေးဇူးကြောင့် ရွာသားတို့ ကောင်းကျိုး ချမ်းသာ ရကြသည်။ သီလ စောင့်လာကြသည်။ ထိုအခါ ရွာမှာ ငြိမ်းချမ်းသာယာ၍ တိုးတက်စည်ပင် သာယာလာသည်။

ရှေးအခါက မစလရွာသည် ငြိမ်းချမ်းသာယာခြင်း မရှိ။ ရွာသားတို့သည် သောက်စားမူးယစ်ကာ မကောင်းမှုများကို ပြုကြသဖြင့် ရာဇဝတ်မှု ထူပြောလှသည်။ ထိုအခါ မစလရွာစားမှာ အမှုစီရင်ရသဖြင့် လာဘ်သပ်ပကာ များစွာရရှိသည်။

ယခုအခါတွင်မူ မာဃလုလင်နှင့် မိတ်ဆွေများ၏ ဆောင်ရွက်မှုကြောင့် ရွာမှာ ငြိမ်ချမ်းသာယာပြီး ရာဇဝတ်မှု ကင်းဝေးနေသည်။

ရွာသားတို့ တရားစောင့်သဖြင့် အမှုမရှိ။ ရွာစားမှာ အမှု မစီရင်ရ။ လာဘ်သပ်ပကာ ဆုတ်ယုတ်လေတော့သည်။

ဤတွင် ယုတ်မာသော ရွာစားသည် မာဃလုလင်တို့ ပျက်စီးရန် ကြံစည်သည်။ သူသည် မင်းထံချဉ်းကပ်ပြီးလျှင် "မာဃလုလင် ဦးဆောင်သည့် လူငယ် ၃၃ကျိပ်၊ ၃ယောက်တို့သည် ရွာကိုဖျက်ဆီးလျက် ရှိကြပါသည်"ဟူ၍ လျှောက်တင်သည်။

မင်းလည်း မိုက်မဲသဖြင့် မာဃလုလင်တို့ကို စစ်ဆေးခြင်း မရှိ။ "သင်းတို့ကို ဆင်ဖြင့် နင်း၍ သတ်စေ"ဟူ၍ အမိန့်ချမှတ်လိုက်သည်။

မင်းချင်းတို့သည် မာဃလုလင်နှင့် အဖော်တို့ကို ဖမ်း၍ ဆင်ဖြင့် နင်းသတ်မည် ပြုကြသည်။ ဆင်ဖြင့် နင်းအံ့ဆဲဆဲ၌ မာဃလုလင်က အဖော်တို့အား "အဆွေတို့၊ မကြောက်ကြလင့်။ ဒေါသလည်း မထွက်ကြနှင့်။ မင်း၊ ရွာစား၊ မင်းဆင်နှင့် တကွ မင်းချင်းတို့အား မေတ္တာထားကြ။ မေတ္တာပို့ကြ။ ငါတို့ပြုခဲ့သော ကောင်းမှုကုသိုလ်နှင့် သီလကို ဆင်ခြင်ကြ၊ သစ္စာဆိုကြ"ဟူ၍ မှာကြား၏။ အဖော်တို့ကလည်း လိုက်နာကျင့်ဆောင်ကြ၏။

ဤတွင် ဆင်ကို အကြိမ်ကြိမ် နင်းစေသော်လည်း ဆင်သည် မနင်းဝံ့။ အနီးသို့ ရောက်သောအခါ အော်၍သာ ပြေးလေသည်။

ထိုအကြောင်းကို မင်းကြီးကြားသော် "ဆေးစွမ်းကောင်း ရှိသောကြောင့် ဖြစ်တန်ရာ၏"ဟုဆို၍ မာဃလုလင်တို့ ကိုယ်တွင် ရှာစေသည်။ မတွေ့။ တစ်ဖန် "ဂါထာမန္တန် အစွမ်းကြောင့် ဖြစ်တန်ရာ၏" ဟု ဆို၍ မေးစေသည်။ မရ။

မာဃလုလင်က "ကျွန်တော်မျိုးတို့၌ ဆေးစွမ်း ကောင်းလည်း မရှိပါ။ ဂါထာမန္တန်လည်း မရှိပါ။ သီလမြဲခြင်း၊ သူတစ်ပါး အကျိုး၊

ရပ်ရွာအကျိုး ဆောင်ရွက်ခြင်း၊ အလုံးစုံသော သတ္တဝါတို့ အပေါ် မိမိနှင့် ထပ်တူ မေတ္တာထားခြင်း စသည်တို့ ပြုပါသည်။ ဤအကျိုး ကြောင့် ရန်အပေါင်းမှ ကင်းဝေးခြင်း ဖြစ်ရပါသည်”ဟူ၍ လျှောက် ထား၏။

မင်းကြီးလည်း အဖြစ်မှန်ကို သိရှိသွားသည်။ မာဃလုလင်တို့ကို လေးစားမြတ်နိုး သွားသည်။ ချက်ချင်းပင် ကုန်းချောသူ ရွာစားအား ရာထူးမှ ချ၍ ပြစ်ဒဏ်ပေးသည်။ မာဃလုလင်တို့အား ဆင်ကိုလည်း ပေးသည်။ မာဃအားရွာစား ခန့်သည်။ ရွာစားပိုင် ရွာသူရွာသား တို့ကိုလည်း ပေးသည်။ ထို့နောက် ရပ်ရွာအကျိုး၊ ရွာသူရွာသား တို့အကျိုးကို ဆက်လက် ဆောင်ရွက်စေသည်။ မာဃလုလင်တို့လည်း ဆထက်တိုး၍ ဆောင်ရွက်ကြသည်။ ဤကောင်းမှုများကြောင့် သက် တမ်းစေ့၍ ကွယ်လွန်သောအခါ မာဃလုလင်သည် တာဝတိံသာ နတ်ပြည်၌ သိကြားမင်း ဖြစ်လာသည်။ အပေါင်းအဖော် တို့သည် လည်း နတ်သားများ ဖြစ်လာကြလေသည်။ ။

(အပြစ်မရှိသော ကောင်းမှုများကား ဥပုသ် စောင့်ခြင်း၊ ဝေယျာဝစ္စ ပြုခြင်း၊ အများ အရိပ်နားခိုရန် သစ်ပင်စိုက်ခြင်း၊ အများသုံးရန် ဥယျာဉ်တည်ခြင်း၊ တံတားဆောက်ခြင်း၊ လမ်းပြင်ခြင်း၊ ရေတွင်း၊ ရေကန်တူးခြင်း စသည့် ကောင်းမှု အလုပ်များ ဖြစ်ကြောင်း သပြေ ကန် ပရိတ်ကြီး နိဿယသစ်၌ ဖော်ပြထားပါသည်။)

မင်္ဂလာပုံပြင် – ၁၈

# သူ့အသက် လွှတ်သူ



၁၈။ အာရတီ ပါပါ ၊

ဧတံ မင်္ဂလ'မုတ္တမံ ။

မကောင်းမှုကို [redacted] လည်းကောင်း၊

နှုတ်ဖြင့်လည်းကောင်း ရှောင်ကြဉ်ခြင်းသည်

မြတ်သော မင်္ဂလာ မည်၏။

# သူ့အသက် လွတ်သူ

တစ်ရံရောအခါ မိခင်တစ်ဦးသည် ခင်ပွန်း သေဆုံးသဖြင့် သား လူလင်နှစ်ယောက်ကို အားကိုးအားထားပြု၍ နေထိုင်သည်။ သား နှစ်ယောက်သည်လည်း မိခင်ကို ရှိသေစွာ လုပ်ကျွေးပြုစု နေထိုင်ကြ သည်။

တစ်နေ့သောအခါ မိခင် ဖျားနာသည်။ ရောဂါပြင်းသဖြင့် ဆေး ဆရာကို ခေါ်၍ ပြသသည်။ ဆေးဆရာက လူနာ၏ ရောဂါကို စမ်းသပ်ပြီးနောက် ညီအစ်ကိုနှစ်ဦးအား "အမောင်တို့၊ ယုန်သား ခါတ်စာကျွေးလျှင် သင်တို့ မိခင်၏ ရောဂါသည် တစ်ခဏတွင်း ပျောက်ကင်းနိုင်သည်။ ယုန်သားအစို ရှာပါ" ဟူ၍ ဆို၏။

သည်တွင် အစ်ကိုက ညီငယ်အား "ညီမောင်၊ တောသို့ သွား၍ ယုန်ထောင်ပါ။ ယုန်သားကို ရအောင်ယူခဲ့ပါ" ဟု စေခိုင်းလိုက်သည်။

ညီငယ်လည်း ယုန်ထောင်ရန် တောသို့ သွားသည်။ တောစပ် သို့အရောက်တွင် ယုန်ငယ်တစ်ကောင်ကို တွေ့သည်။ ယုန်ငယ်သည် ရွက်နုများ စားနေသည်။ ညီငယ်ကို မြင်သောအခါ ကြောက်အား လန့်အားဖြင့် ထွက်ပြေးသည်။ အပြေးမတော်သဖြင့် နွယ်ပင်တစ်ပင် နှင့်ငြိကာ မပြေးနိုင်ဖြစ်နေရှာသည်။ ညီငယ်လည်း ယုန်ငယ်ကို အလွယ်တကူပင် ဖမ်းယူလိုက်သည်။ ယုန်ကလေးမှာ ကြောက်ရွံ့ သဖြင့် တစ်ကိုယ်လုံး တုန်နေရှာသည်။

ညီငယ်သည် မိမိလက်တွင်း ရောက်နေသော ယုန်ကလေး၏ ဖြစ်အင်ကိုကြည့်ကာ စာနာစိတ် ဖြစ်ပေါ်သွားသည်။ 'သတ္တဝါ ဆို

သည်မှာ သေရမည်ကို ကြောက်ကြသူချည်းပင်၊ ငါလည်း သေရမည်ကို ကြောက်သည်။ ငါ့မိခင်လည်း သေရမည်ကို ကြောက်သည်။ ယုန်ကလေးလည်း သေရမည်ကို ကြောက်သည်။ ငါ့မိခင် အသက်မသေအောင် ယုန်ကလေးအသက်ကို သတ်ရမည် ဆိုသည်မှာ တရားပါသလော။ သဘာဝ ကျပါသလောဟူ၍ တွေးကာဆင်ခြင်သည်။ နောက်ဆုံးတွင် ယုန်ကလေးကို မသတ်သင့် ဟူ၍ ဆုံးဖြတ်ကာ ပြန်လွှတ်လိုက်သည်။ ယုန်ငယ်လည်း ဝမ်းသာအားရ ထွက်ပြေးသွားလေသည်။

ညီငယ်အိမ်ပြန်ရောက်သော် အစ်ကိုကြီးက "ညီငယ်၊ ယုန်ကောင်ပါ,ပါသလော"ဟူ၍ မေးသည်။ ညီငယ်က အကျိုးအကြောင်း ပြန်ပြောသည်။ အစ်ကိုကြီးက မကျေနပ်။ "သင်သည် မိခင်အကျိုးကိုပစ်ပယ်သူဖြစ်သည် "ဟု ဆိုကာ ကြိမ်းမောင်းပြစ်တင်သည်။

ဤတွင် မိခင်က "သားငယ်မှာ အပြစ်မရှိ၊ သားငယ်၏ ဆောင်ရွက်မှုသည် မှန်ကန်သည်။ သူ့အသက် သတ်ခြင်းတည်း ဟူသော မကောင်းမှုသည် မကောင်း"ဟု ဆိုကာ သားငယ်၏ စိတ်စေတနာကို အားရဝမ်းသာ သာဓုခေါ်လေသည်။

ထိုစဉ် ညီငယ်က "ကျွန်ုပ်သည် သိတတ်သည့် အရွယ်က စ၍ သိလျက်နှင့် သူတစ်ပါးအသက်ကို မသတ်ခဲ့ပါ။ ဤစကားသည် မှန်သော သစ္စာစကား ဖြစ်ပါ၏။ ဤစကားမှန်ပါက မိခင်၏ ရောဂါသည် ပိန်းကြာဖက်တွင် ရေမတင်သလို ကင်းစင် ပပျောက် ပါစေသတည်း"ဟူ၍ သစ္စာပြု၏။ ထိုသစ္စာစကားကြောင့် မိခင်၏ရောဂါမှာ ချက်ချင်း ပျောက်ကင်းသွားလေသတည်း။ ။

# စံပြလုလင်



၁၉။ ဝိရတိ ပါပါ ၊
ဧတံ မင်္ဂလ'မုတ္တမံ။
မကောင်းမှုကို စိတ်ဖြင့် ရှောင်ကြဉ်ခြင်းသည်
မြတ်သော မင်္ဂလာ မည်၏။

# စံပြလုလင်

ရှေးသရောအခါ ဗာရာဏသီပြည်ဝယ် ဒိသာပါမောက္ခ ဆရာကြီး တစ်ဦး ရှိသည်။ သူသည် ဉာဏ်ပညာလည်း အထူး ရှိသည်။ အကျင့်သီလလည်း အထူး ကောင်းသည်။

သူ့ထံသို့ အမျိုးကောင်းသား လုလင်များစွာတို့သည် လာရောက် အတတ်သင်ကြသည်။ ဆရာကြီးတွင် လှပယဉ်ကျေးသော သမီးပျိုကလေး တစ်ဦး ရှိသည်။ တစ်နေ့တွင် ဆရာကြီးက "တပည့်လုလင်တို့ ကိုယ့်ကျင့်တရား ကောင်း မကောင်း ငါ စူးစမ်းမည်။ သူတို့ အထဲမှ ကိုယ်ကျင့်တရား ကောင်းသူကို ငါ့သမီးနှင့် လက်ဆက်ပေးမည်" ဟူ၍ ကြံစည်သည်။

ထို့နောက် သူသည် တပည့်လုလင်တို့ကို ခေါ်သည်။ "အမောင်တို့၊ ငါ့သမီးသည် အရွယ်ရောက်ပြီ။ ငါ့သမီး ဆင်မြန်းရန် သင်တို့ အိမ်မှ အဝတ်တန်ဆာတို့ကို မိဘဆွေမျိုးတို့ မသိအောင် ဘိတ်တဆိတ် ခိုးယူလာခဲ့ပါ။ အဖိုးအထိုက်ဆုံးသော အဝတ်တန်ဆာကို ခိုးယူလာနိုင်သူအား ငါ့သမီးနှင့် ထိမ်းမြားပေးမည်" ဟူ၍ ပြောဆိုသည်။

တပည့်တို့သည် ဆရာကြီး၏ သမီးကို စုံမက်ကြသည်။ ထို့ကြောင့် ဆရာကြီး စေခိုင်းသည့် အတိုင်း အိမ်သို့ပြန်၍ အဖိုးတန် အဝတ်တန်ဆာများကို မိဘဆွေမျိုးတို့ မသိအောင် ခိုးယူလာကြသည်။ ဆရာကြီးကို ပေးအပ်ကြသည်။ ဆရာကြီးလည်း ပစ္စည်းအားလုံးကို အမှတ်အသားပြု၍ စနစ်တကျ သိမ်းဆည်းထားသည်။

ဤသို့ တပည့်လုလင်တို့သည် အိမ်မှ အဝတ်တန်ဆာတို့ကို ခိုး

ယူ လာသော်လည်း ထူးခြားသော တပည့်လုလင်တစ်ဦးမှ လုံးဝ ခိုးယူခြင်း မပြုပေ။ တစ်စုံတစ်ခုသော အဝတ်တန်ဆာကိုမှ ဆရာကြီး ထံ ပေးအပ်ခြင်း မပြုပေ။

ထိုအခါ ဆရာကြီးက ထိုလုလင်အား အကြောင်းရင်းကို စုံစမ်း မေးမြန်းသည်။ ဤတွင် လုလင်က "ဆရာ၊ အကျွန်ုပ်သည် ဆရာ ၏ သမီးပျိုကို စုံမက်ပါသည်။ သို့ရာတွင် အိမ်မှ အဝတ်တန်ဆာတို့ကိုမူ ခိုးယူခြင်း မပြုလိုပါ။ လောက၌ မကောင်းမှု ပြုသူအဖို့ ဆိတ်ကွယ် ရာ အရပ်မည်သည် မရှိပါ။ ခိုးယူမှု စသော မကောင်းမှုကို အကျွန်ုပ် သည် စိတ်ဖြင့်ပင် မပြုမှားလိုပါ"ဟူ၍ ပြောဆိုသည်။

ဆရာကြီးသည် ထိုလုလင်ကို အလွန်နှစ်သက် မြတ်နိုး သွားသည်။ "အမောင်၊ ငါ့သမီး၌ အဝတ်တန်ဆာ မရှိ၍ ခိုးခိုင်းသည် မဟုတ်ပါ။ ကိုယ်ကျင့်တရားကောင်းသူကို စမ်းသပ် ရွေးချယ်ခြင်းသာ ဖြစ်သည်။ အမောင်သည် ငါ့သမီးနှင့် ထိုက်တန်သူဖြစ်သည်"ဟု ပြောဆိုသည်။ ထိုလုလင်ပျိုကို ချီးကျူးကာ သမီးနှင့် ထိမ်းမြား ပေးလေသည်။

ကျန်တပည့်တို့အား မကောင်းမှု မပြုရန် ဆိုဆုံးမသည်။ ခိုးယူ လာခဲ့သော ပစ္စည်းများကိုလည်း အသီးသီး ပြန်လည် ပေးစေလေ သည်။ ။

မင်္ဂလာပုံပြင် – ၂၀

# ကုဏ္ဍာသယအိုးနှင့် အရက်သမား



၂၀။ မဇ္ဇပါနာ စ သံယမော ၊
ဧတံ မင်္ဂလ'မုတ္တမံ ။
သေရည် သေရက် သောက်စားခြင်းမှ
ဆေးစွာရှောင်ကြဉ်ခြင်းသည်
မြတ်သော မင်္ဂလာ မည်၏။

# ကုဋ္ဌာသမယအိုးနှင့် အရက်သမား

ရှေးသရောအခါ ဗာရာဏသီပြည်တွင် သူဌေးကြီးတစ်ဦး ရှိသည်။ ပစ္စည်းဥစ္စာ လွန်စွာကြွယ်ဝချမ်းသာသည်။ မြေ၌ မြှုပ်ထားသော ဥစ္စာသည်ပင် ကုဋေလေးဆယ် ရှိသည်။

သူဌေးကြီးသည် ကြွယ်ဝချမ်းသာသည့်နှင့် အမျှ ကုသိုလ်ကောင်းမှုတို့ကိုလည်း အထူးပြုသည်။ ထို့ကြောင့် ကွယ်လွန်သောအခါ တာဝတိံသာနတ်ပြည်၌ သိကြားမင်း သွားဖြစ်လေသည်။

သူဌေးကြီးတွင် သားတစ်ယောက်တည်းသာ ရှိသည်။ သူဌေးကြီး၏ အမွေပစ္စည်းတို့ကို ထိုသားတစ်ဦးတည်းသာ ရရှိသည်။ သူဌေးသားကား မလိမ္မာ၊ မိုက်မဲသူ ဖြစ်သည်။ ထို့ကြောင့် ဥစ္စာတို့ကို အကျိုးရှိအောင် မသုံး၊ အမျိုးမျိုး ဖြုန်းတီးပစ်၏။

သူသည် မဏ္ဍပ်ကြီး ဆောက်သည်။ အပေါင်းအဖော် အခြံအရံတို့နှင့် အရက်သောက်သည်။ မူးယစ်သောအခါ ကျွမ်းထိုးကောင်းသူတို့ကို ခေါ်၍ ကျွမ်းထိုး ပြစေသည်။ အကကောင်းသူ တို့ကို ခေါ်၍ ကပြစေသည်။ အဆိုကောင်းသူတို့ကို ခေါ်၍ သီဆိုပြစေသည်။ ထိုသူတို့ကို အသပြာ တစ်ထောင်စီ ဆုချ၏။ ထို့မှုမက အစားအစာမျိုးစုံကို စား၏။ မိန်းမတို့ကို ခေါ်၍ ပျော်ပါး၏။ ဤသို့ သုံးဖြုန်းလာရာ အဖထားခဲ့သော ဥစ္စာတို့သည် တစ်စ တစ်စ ကုန်ခန်းသွားလေသည်။ နောက်ဆုံးတွင် သူဌေးသားမှာ ကုန်းကောက်စရာ မရှိ။ ဆင်းရဲနွမ်းပါးကာ အထီးကျန်ဘဝသို့ ရောက်သွားသည်။ ဟောင်းနွမ်းသော

အဝတ်တို့ကို ဝတ်ဆင်လျက် ဆင်းရဲစွာ နေထိုင် စားသောက်ရလေသည်။

ဖခင်ဖြစ်သူ သိကြားမင်းသည် သားကို ဆင်ခြင်ကြည့်သော် ဖြစ်ပျက်ပုံ အလုံးစုံကို သိမြင်သွားလေသည်။ ဤတွင် သားကို ချစ်ခင်သဖြင့် လူ့ပြည်သို့ ဆင်းလာသည်။

သားထံ ချဉ်းကပ်လျက် တောင့်တတိုင်း အလိုရှိရာပေးသော ဣစ္ဆာသယအိုးကို ပေးသည်။

"အမောင်၊ဤအိုးသည် လိုရာကို ရစေသော ဣစ္ဆာသယအိုး ဖြစ်သည်။ သင် အလိုရှိရာ တောင့်တ၍ အသုံးပြုပါ။ ဤအိုးကိုလည်း မကွဲအောင် သတိဖြင့် ထိန်းသိမ်းထားပါ။ နောက်ထပ် ငါမပေးနိုင်တော့ပါ"ဟူ၍ ပြောဆိုမှာကြား၏။ ထို့နောက် နတ်ပြည်သို့ ပြန်ကြွသွားလေသည်။

သူဌေးသားသည် ဝမ်းမြောက်မဆုံး ဖြစ်၏။ အလိုရှိရာကို တောင့်တရာ အိုးထဲတွင် ပေါ်လာ၏။ ယင်းတို့ကို သုံးစွဲ၏။ မကြာမီ သေအရက်ကို တောင့်တ၍ သောက်စားမူးယစ်ပြန်လေသည်။

တစ်နေ့သ၌ သူဌေးသားသည် အရက်ကို တောင့်တ၍ သောက်စားသည်။ အလွန်မူးယစ်သောအခါ ဖခင်သိကြားမင်းမှာသောစကားကို အလေးမပြု။ အရက်မူးမူးဖြင့် ဣစ္ဆာသယအိုးကို မြှောက်ချည်၊ ဖမ်းချည်ပြု၍ ကစား၏။ တစ်ကြိမ်တွင် အိုးကိုမြှောက်ကာ လက်ဖြင့်ဖမ်းရာ မမိ၊ ချော်ထွက်သွား၍ အိုးသည် မြေသို့ကျကာ ကွဲလေ၏။

ထိုအချိန်မှစ၍ သူဌေးသားသည် တစ်ဖန် ဆင်းရဲမွဲတေ သွားပြန်သည်။ ဖခင် သိကြားမင်းသည် အရက်သမားကို ထပ်မံ မ,မစနိုင်တော့ပေ။ သူဌေးသားသည် အဝတ်နွမ်းကို ဝတ်လျက် ခွက်လက်စွဲကာ

တောင်းရမ်း စားသောက်ရသည်။ နောက်ဆုံးတွင် သူတစ်ပါး၏ အိမ်နံရံကိုမှီလျက် သေဆုံးသွားလေသတည်း။ ။



မင်္ဂလာပုံပြင် – ၂၁

# တရားမမေ့သူ



၂၁။ အပ္ပမာဒေါ စ ဓမ္မေသု ၊
ဧတံ မင်္ဂလ မုတ္တမံ။
တရား၌ မမေ့မလျော့ခြင်းသည်
မြတ်သော မင်္ဂလာ မည်၏။

# တရားမမေ့သူ

တစ်ရံရောအခါ ကာလိင်္ဂတိုင်း၊ ဒန္တပုရမြို့၌ ကရဏ္ဍုမင်း အုပ်စိုး၏။ တစ်နေ့သ၌ ထိုမင်းသည် အခြံအရံတို့နှင့် အတူ ဥယျာဉ်တော်သို့ သွားသည်။ ဥယျာဉ်သို့ ရောက်သောအခါ ဥယျာဉ်တံခါးဝတွင် သရက်သီးမှည့်များ အပြွတ်လိုက်သီးနေသော သရက်ပင်ကို မြင်သည်။

မင်းသည် သရက်သီး သုံးဆောင်လိုသော ဆန္ဒ ဖြစ်လာသဖြင့် ဆင်ပေါ်မှပင် သရက်သီး တစ်ခိုင်ကို လှမ်း၍ဆွတ်ယူသည်။ ထို့နောက် ကျောက်ဖျာထက်တွင် ထိုင်လျက် သုံးဆောင်၏။

မှူးမတ်၊ ပုဏ္ဏား စသော အခြံအရံတို့သည် သရက်သီးကို မင်းကြီး ဦးဦးဖျားဖျား သုံးဆောင်ပြီးပြီဟု ဆိုကာ ကျန်သရက်သီးများကို ဆွတ်ခူးကြ၏။ လက်လှမ်းမမီသည်တို့ကို တုတ်၊ ခဲ စသည်တို့ဖြင့် ပစ်ခတ်ကြ၏။ ထို့နောက် စားသုံးကြ၏။ တစ်ခဏအတွင်းမှာပင် သရက်ပင်သည် အသီးများ ကင်းမဲ့၍ အကိုင်းအခက်တို့ ကျိုးပဲ့ပျက်စီး သွားကြလေသည်။

မင်းကြီးသည် တစ်နေ့ပတ်လုံး ဥယျာဉ်ကစားပြီးလျှင် ညနေချိန်သို့ ရောက်မှ နန်းတော်သို့ ပြန်မည်ပြု၏။ ထိုအခါ ဥယျာဉ်တံခါးဝ၌ အကိုင်းအခက်တို့ ကျိုးပဲ့ကာ မတင့်မတယ် ဖြစ်နေသော သရက်ပင်ကို မြင်၏။ ဤတွင် သရက်ပင်ရင်း၌ ရပ်လျက် "ဤသရက်ပင်ကား နံနက်အခါက အကိုင်းအခက် အသီးအခိုင်နှင့် ပြည့်စုံလျက် တင့်တယ်လှသည်။ ယခုကား အကိုင်းအခက်တို့လည်း ကျိုးပဲ့နေပြီ။ အသီးအခိုင်တို့လည်း ကင်းမဲ့နေပြီ" ဟူ၍ မြည်တမ်းမိသည်။

သို့ မြည်တမ်းရာမှ မနီးမဝေးရှိ အသီးမသီးသော သရက်ပင်ကို မြင်ပြန်လျှင် "ထိုသရက်ပင်ကား အသီးမရှိ၍ မပျက်စီး။ အကိုင်းအခက်နှင့် ပြည့်စုံလျက် တင့်တယ်စွာ တည်နေဘိသည်။ အလားတူပင် လူ့အဖြစ်သည် အသီးရှိသော သရက်ပင်နှင့် တူ၏။ ရဟန်းအဖြစ်သည် အသီးမရှိသော သရက်ပင်နှင့် တူ၏။ ဥစ္စာရှိသူမှာ ဘေးရှိ၏။ ဥစ္စာမရှိသူကား ဘေးမရှိ။ ငါသည် မေ့လျော့နေ၍ မဖြစ်တော့၊ အသီး မရှိသော သရက်ပင်ကဲ့သို့ ကျင့်ရာ၏"ဟူ၍ ဆိုကာ အသီးသီးသော သရက်ပင်ကို အာရုံပြုသည်။ သို့ အာရုံပြုရင်း ဝိပဿနာတရားကို ပွားများရာ ထူးမြတ်သော ဉာဏ်ကိုရ၍ ပစ္စေကဗုဒ္ဓါ (ဘုရားငယ်) ဖြစ်သွားပေ၏။

သရက်ပင်ရင်း၌ မင်းကြီးရပ်၍ တရား ရှုမှတ်နေသည်မှာ ကြာမြင့်လှသဖြင့် မှူးမတ်တို့က "အရှင်မင်းကြီး၊ ရပ်နေသည်မှာ ကြာမြင့်ပြီ"ဟု သတိပေးကြ၏။

မင်းကြီးက "အမတ်တို့၊ ငါသည် မင်း မဟုတ်တော့၊ ပစ္စေကဗုဒ္ဓါဖြစ်နေပြီ"ဟု ပြန်၍ မိန့်တော်မူ၏။ အမတ်တို့ကလည်း မင်းကြီး၏ ဖြစ်ပုံကို မသိသဖြင့် ပြန်လည်လျှောက်ထားကြ၏။

"အရှင်မင်းကြီး၊ ပစ္စေကဗုဒ္ဓါတို့ကား အရှင်မင်းကဲ့သို့ မဟုတ်ပါ။"

"အဘယ်သို့နည်း။"

"အရှင်မင်းကြီး၊ ပစ္စေကဗုဒ္ဓါတို့သည် ဆံမုတ်ဆိတ်မရှိ။ ဖန်ရည်စွန်းသော အဝတ်ကိုလည်း ဝတ်ကြပါ၏။"

ဤတွင် မင်းကြီးသည် ဦးခေါင်းကို လက်ဖြင့် သုံးသပ်လိုက်ရာ မင်းအသွင် ပျောက်သွားသည်။ ဆံမုတ်ဆိတ်တို့ ကင်း၍ ဦးပြည်းဖြင့် ဖြစ်သွားသည်။ မင်းဝတ်တန်ဆာတို့ ကွယ်၍ သင်္ကန်း၊ သပိတ် စသော

တို့ ဆောင်သော ရဟန်းအသွင် ထင်ရှားဖြစ်ပေါ်သည်။ မြေ၌ မရပ်၊ ကောင်းကင်၌ ရပ်လျက် တည်နေတော်မူသည်။

မှူးမတ်အပေါင်းလည်း အံ့ချီးမဆုံး ဖြစ်ကြသည်။ ပျပ်ဝပ်စွာ ထိုင်လျက် ရှိသေစွာ ရှိခိုးကြသည်။ ပစ္စေကဗုဒ္ဓါ ဖြစ်နေသော မင်းကြီးက "သင်တို့ အားလုံး ကုသိုလ်ကောင်းမှု ပြုရန် မမေ့လျော့ ကြကုန်လင့်" ဟူ၍ ဆိုဆုံးမပြီးလျှင် ကောင်းကင်ခရီးဖြင့် ဟိမဝန္တာရှိ နန္ဒမူလိဏ်သို့ ကြွသွားလေသတည်း။ ။



# ရိုသေထိုက်သူ



၂၃။ ဂါရဝေါ စ ၊
တေ် မင်္ဂလမုတ္တမံ။
ရိုသေထိုက်သူကို ရိုသေခြင်းသည်
မြတ်သော မင်္ဂလာ မည်၏။

# ရိုသေထိုက်သူ

တစ်ရံရောအခါ ဟိမဝန္တာတောရှိ ညောင်ပင်ကြီး တစ်ပင်ကို အမှီပြု၍ ခါ၊ မျောက်နှင့် ဆင်တို့သည် နေထိုင်ကြသည်။ သူတို့သည် အဆွေခင်ပွန်းများ ဖြစ်ကြသည်။ သို့ရာတွင် တစ်ဦးကို တစ်ဦး ရိုသေခြင်း မရှိကြပေ။

တစ်နေ့သ၌ အဆွေခင်ပွန်းသုံးဦးသည် ဆွေးနွေး တိုင်ပင်ကြ၏။ " ယခု ငါတို့သုံးဦး ဆက်ဆံနေထိုင်ပုံမှာ မသင့်။ တစ်ဦးကိုတစ်ဦး ရိုသေခြင်း မရှိ၊ အဆုံးအမပြုခြင်း မရှိ။ အသက်ကြီးသူကို ရိုသေလျက် ထိုသူ၏ အဆုံးအမကို ခံယူနေထိုင်ကြလျှင် မသင့်ပါလော"ဟူ၍ အကြံအစည် ဖြစ်ကြသည်။ နောက်ဆုံးတွင် ထိုအကြံအစည်အတိုင်း ပြုမူနေထိုင်ရန် အသက်ကြီးသူကို စိစစ်ကြသည်။

"ငါတို့ သုံးဦးမှာ ဤညောင်ပင်ကြီးကို အမှီပြု၍ နေကြရသည်။ ဤညောင်ပင်ကိုပင် အမှတ်အသား ပြုကြမည်"ဟူ၍ သဘောတူဆုံးဖြတ်ကြသည်။

ခါနှင့် မျောက်တို့က ဆင်အား "အဆွေဆင်၊ ဤညောင်ပင်ကြီးကို ဘယ်အခါမှ စ၍ သင်သိပါသနည်း"ဟု မေးကြ၏။

ဆင်က "အဆွေတို့၊ ငါ ဆင်ငယ်ကလေး ဘဝ၌ ရှိစဉ် ဤညောင်ပင်ကို ကျော်လွှား၍ သွားခဲ့သည်။ ညောင်ပင် ထိပ်ဖျားသည် ငါ့ချက်အထိသာ ရောက်သည်"ဟူ၍ ဖြေကြား၏။

တစ်ဖန် ဆင်နှင့် ခါတို့က မျောက်အား "အဆွေ မျောက်၊ ဤညောင်ပင်ကို ဘယ်အခါမှ စ၍ သိသနည်း"ဟု မေးကြပြန်၏။

မျောက်က "အဆွေတို့၊ ငါ မျောက်ငယ်ကလေးဘဝ၌ ရှိစဉ် ဤမြေကြီး၌ ထိုင်လျက် ညောင်ပင်၏ အညွန့်အဖျားတို့ကို စားရသည်။ ဤမျှလောက် ငယ်ရွယ်စဉ် အချိန်မှစ၍ သိပါသည်"ဟု ဆို၏။

တစ်ဖန် ခါအား မေးကြပြန်သော် ခါက "အဆွေတို့၊ ယခင် အခါက ဤအရပ်၌ ဤညောင်ပင် မရှိသေး၊ အခြားတစ်ပါးသော အရပ်မှ ညောင်ပင်၏ အသီးကို ငါစား၍ ဤအရပ်တွင် မစင် စွန့်ခဲ့သည်။ ထိုမစင်မှ ဤညောင်ပင် ပေါက်လာပါသည်"ဟူ၍ ပြောပြ၏။

ဤတွင် ဆင်နှင့် မျောက်တို့က "အဆွေခါ၊ သင်သည် ငါတို့နှစ်ဦးထက် အသက်ကြီးသည်။ အတွေ့အကြုံများသည်။ ထို့ကြောင့် ငါတို့ထက်ဖို၍ ဉာဏ်ပညာရှိပါသည်။ ငါတို့ ရိုသေထိုက်ပါသည်။ ယနေ့မှစ၍ သင့်အား ငါတို့ ရိုသေခြင်း၊ ဆည်းကပ်ခြင်း၊ ဝတ်ကြီး ဝတ်ငယ်ပြုခြင်း အစရှိသည်တို့ ပြုပါမည်။ ငါတို့ကိုလည်း ဆုံးမပါ၊ ဩဝါဒပေးပါ။ ငါတို့ ကောင်းစွာ ခံယူပါမည်"ဟူ၍ ပြောဆို တောင်းပန်ကြ၏။

ခါလည်း အဆွေခင်ပွန်းနှစ်ဦး၏ စကားကို လက်ခံကာ လိုက်နာကျင့်သုံးသည်။ အဆွေခင်ပွန်း နှစ်ဦးအား အဆုံးအမ ဩဝါဒ ပေးရုံမက သီလကိုလည်း ဆောက်တည်စေသည်။ မိမိကိုယ်တိုင်လည်း စံပြနေထိုင်ကာ သီလကို ဆောက်တည်၏။

ဤသို့လျှင် အဆွေခင်ပွန်းသုံးဦးသည် ညီညွတ်စွာ နေထိုင်သွားကြသည်။ အားရန်လည်း ကင်း၍ ပေါင်းသင်း ဆက်ဆံရာတွင်လည်း အဆင်ပြေကြလေသည်။ သူတို့ သုံးဦးသည် သက်တမ်းစေ့ နေထိုင်သွားကြကာ သေသောအခါ ကောင်းရာသုဂတိသို့ လားကြလေသည်။ ။

# မေးခွန်းသုံးသွယ်



၂၃။ နိဝါတော စ ။

တော် မင်္ဂလ မုတ္တမံ။

မိမိကိုယ်ကို နှိမ့်ချခြင်းသည်

မြတ်သော မင်္ဂလာ မည်၏။

# မေးခွန်းသုံးသွယ်

တစ်ရံရောအခါ ဗောဂပြည်ဝယ် ဥာဏရာဇာမင်းကြီး မင်းပြု သည်။ ထိုမင်းသည် ဉာဏ်ပညာနှင့် ပြည့်စုံသည်။ ပညာရှိ မှူးမတ် များလည်း ပေါများသည်။ ထို့ကြောင့် ဝေးနီးအနှံ့ ထင်ရှားကျော်စော သည်။

မင်းကြီးတွင် ဗလနှင့် သောမ အမည်ရှိသော သားတော်နှစ်ပါး ရှိသည်။ သားတော်ကြီး ဗလသည် စိတ်ထား မကောင်း။ မာန်မာန ကြီး၏။ ဘုရင့်သားတော် ဟူသော အရှိန်အဝါဖြင့် မှူးမတ် ပြည်သူ တို့ကို မောက်မာစွာ ဆက်ဆံ၏။ ထို့ကြောင့် မှူးမတ် ပြည်သူတို့က မနှစ်သက်ကြပေ။

သားတော်ငယ် သောမကား ထိုသို့မဟုတ်။ စိတ်ထား ကောင်း၏။ မာန်မာန လုံးဝမရှိ။ နိဝါတတရားကို လက်ကိုင်ထားလျက် မိမိကိုယ် ကို နှိမ့်ချစွာဖြင့် မှူးမတ်ပြည်သူတို့ကို ဆက်ဆံ၏။ ထို့ကြောင့် မှူးမတ်ပြည်သူတို့က နှစ်သက်ကြ၏။

တစ်နေ့သောအခါ ဗလသည် သားနားစွာ ဝတ်ဆင်၍ မြင်း ကိုစီးလျက် မင်းပွဲသဘင်သို့ တက်ရောက်ရန် ထွက်ခွာလာသည်။ လမ်း၌ သူ့ရှေ့မှ သွားနေသော ဆင်းရဲသားအဘိုးအို တစ်ဦးကို မြင် တွေ့သည်။ အဘိုးအိုသည် ခရီးသည် တစ်ဦး ဖြစ်သည်။ လွယ်အိတ် ကို လွယ်လျက် အဝေးမြို့ရွာသို့ သွားနေသည်။ ဗလ မြင်းစီး လာ သည်ကို မသိရှာ။ ထို့ကြောင့် လမ်းဖယ် မပေးမိ။ ထိုအခါ ဗလက ဆဲရေးပြီးလျှင် မြင်းနှင့် တိုက်သွားသည်။ အဘိုးအိုခမျာ လမ်းဘေး သို့ လဲကျသွားရှာလေသည်။

သောမသည် နောင်တော် ဗလ နောက်မှ မြင်းစီးလျက် လိုက်လာရာ ဖြစ်ပျက်ပုံ အလုံးစုံကို မြင်လိုက်သည်။ သူသည် ချက်ချင်းပင် မြင်းပေါ်မှ ခုန်ဆင်းလိုက်သည်။ အဘိုးအိုကို ယုယစွာ ထူမပေးသည်။

"အဘိုး၊ အလွန် နာသွားပါသလား။"

"အရှင့်သား၊ ခြေထောက် အနည်းငယ် နာသွားပါသည်။"

"သည်လိုဖြစ်လျှင် ကျွန်ုပ်၏ မြင်းကို စီးသွားပါ။ မြင်းကို အဘိုးအား အပိုင်ပေးအပ်ပါသည်။"

"အရှင့်သား၊ ဝတ်ကျောင်းစားလုများ ဝတ်လျက် မင်းပွဲသဘင်ကို သွားသည် မဟုတ်ပါလော။ မြင်းမပါဘဲ သွား၍ သင့်ပါမည်လော။"

"ကျွန်ုပ်အတွက် မပူပါနှင့်။ မြင်းမရှိသော်လည်း ကျွန်ုပ် ခြေကျင် လျှောက်သွားနိုင်ပါသည်။ အဘိုးသာလျှင် ခြေနာနေရာ မြင်းကို ယူသွားသင့်ပါသည်။"

ဤသို့ဆိုကာ သောမသည် အဘိုးအိုကို မြင်းပေါ်သို့ တင်ပေးသည်။ ထိုအခါ အဘိုးအိုသည် လွယ်အိတ်ထဲမှ ပါလာသော ပေစာထုပ်ကို သောမအား ပေးအပ်သည်။

"အရှင့်သား၊ ကျေးဇူးကြီးလှပါသည်။ အရှင့်သားကို ကျေးဇူးဆပ်သောအနေဖြင့် ဤပေစာထုပ်ကို အဘိုးက လက်ဆောင် ပေးပါသည်။ ဤပေစာမှာ မည်သူ့ လက်ထဲတွင်မှ မရှိသေးသည့် 'သုတကျမ်းရတနာ' ဖြစ်သည်။ အရှင့်သား၊ အစအဆုံး ဖတ်ရှု၍ လေ့လာပါ။ ဉာဏ်ပညာ ဗဟုသုတ အထူးတိုးပွားလာပါလိမ့်မည်" ဟူ၍ ဆို၏။

သောမသည် ဝမ်းမြောက်ဝမ်းသာပင် ပေစာထုပ်ကို လက်ခံယူသည်။ အဘိုးအိုလည်း မြင်းစီး၍ ထွက်ခွာသွားသည်။ သောမသည် နှိမ့်ချစွာပင် ခြေကျင်လျှောက်၍ မင်းပွဲသဘင်သို့ ဆက်လက် ထွက်ခွာလာသည်။ မင်းပွဲသဘင်သို့ မင်းညီမင်းသားတိုင်းပင် မြင်းစီး၍

ဘစ်မျိုး၊ ရထားစီး၍ တစ်ဖုံ လာကြသည်။ ခြေကျင်လျှောက်လျက် နိမ့်ချစွာလာသော သောမကို မြင်တွေ့သောအခါ မင်းမှူးမတ်တို့ အံ့သြခဆုံး ရှိကြလေသည်။

ဤသို့ဖြစ်ပျက်ပြီး ၆–လခန့်ကြာသော် အိမ်နီးချင်း တိုင်းပြည်ဘစ်ပြည်မှ သံအဖွဲ့တစ်ဖွဲ့သည် ဘောဂပြည်သို့ ရောက်လာသည်။ သူတို့သည် မင်းကြီးကိုဖူးတွေ့လျက် "အရှင်မင်းမြတ်သည် ဉာဏ်ပညာကြီးမား၍ အရှင်မင်းမြတ်ထံတွင် ပညာရှိ မှူးမတ် ပေါများသည်ဟူ၍ ကြားသိရပါသည်။ ထို့ကြောင့် ကျွန်တော်မျိုးတို့၏ ဘုရင်မင်းမြတ်နှင့် ပညာရှိမှူးမတ်များ တိုင်ပင်ကာ အရှင်တို့ကို ဉာဏ်ရည်စမ်းသော အနေဖြင့် မေးခွန်းသုံးသွယ်မေးရန် ရောက်လာခြင်း ဖြစ်ပါသည်။ ဖြေကြားတော်မူပါ"ဟူ၍ လျှောက်ထားသည်။ ရွှေပေပေါ်တွင် ရေးထိုးထားသော မေးခွန်းသုံးသွယ်ကို ဆက်သည်။

ယင်းတို့မှာ (၁) အရိုးသာ အတောင်အမြီးဖြစ်သော ငှက်သည် အဘယ်ငှက်နည်း။ (၂) အသားသာ အတောင်အမြီး ဖြစ်သော ငှက်သည် အဘယ်ငှက်နည်း။ (၃) အမွေးသာ အတောင်အမြီး ဖြစ်သော ငှက်သည် အဘယ်ငှက်နည်း။

ဤမေးခွန်းသုံးသွယ်ကို မင်းကြီးနှင့်တကွ ပညာ ရှိအမတ်များသည် ဖြေဆိုနိုင်ရန် အမျိုးမျိုး ကြံဆကြသည်။ အဖြေမပေါ်။ သို့ဖြင့် သုံးရက်မြောက်သောနေ့တွင် ဖြေဆိုမည် ဟူ၍ ချိန်းဆိုလိုက်လေသည်။

မင်းကြီးနှင့် မှူးမတ်တို့သည် အခက်တွေ့ကြပြီ။ မေးခွန်း သုံးသွယ်ကို ဖြေလည်း မဖြေနိုင်။ မဖြေနိုင်လျှင်လည်း တစ်ပါးနိုင်ငံ၏ အထင်အမြင်သေးခြင်း ခံရတော့မည်။ အရှက်ရတော့မည်။ မည်သို့ ပြုရပါမည်နည်း။

သည်တွင် သားတော်ကြီး ဗလက 'ခက်ခဲသော မေးခွန်းကို လာမေးရပါမည်လော'ဟု ဆိုကာ သံအဖွဲ့ဝင်များကို သွားရောက် ဖမ်းဆီးသတ်မည်ပြုသည်။ မင်းကြီးက အမျိုးမျိုး တားဆီးသည်။ နောက်ဆုံးဆိုဆုံးမ၍ မရသဖြင့် ဗလကိုတိုင်းပြည်မှ နှင်ထုတ်လိုက်ရလေသည်။

ထိုစဉ် သားတော်ငယ် သောမသည် ခမည်းတော်ထံ ချဉ်းကပ်လျက် မေးခွန်းသုံးသွယ်ကို မိမိ ဖြေဆိုနိုင်ကြောင်း လျှောက်ထားသည်။

"ခမည်းတော်၊ စိုးရိမ်တော် မမူပါနှင့်။ သူဆင်းရဲ အဘိုးအိုပေးသော 'သုတကျမ်းရတနာ' ကို သားတော် လေ့လာထားပါသဖြင့် ဤမေးခွန်းသုံးသွယ်ကို ကောင်းစွာ ဖြေဆိုနိုင်ပါသည်"ဟု ဆိုကာ ယခင်က ဖြစ်ပျက်ပုံ အလုံးစုံကို လျှောက်ထားသည်။ မင်းကြီးနှင့် မှူးမတ်များလည်း ဝမ်းမြောက်ဝမ်းသာ ဖြစ်သွားကြလေသည်။

သို့ဖြင့် ချိန်းဆိုသောနေ့သို့ ရောက်လာသည်။ ညီလာခံ ခန်းမဆောင်တွင် အမေးပုစ္ဆာ ဖြေဆိုပွဲကို ကျင်းပသည်။ မင်း၊ မိဖုရား၊ မင်းညီမင်းသား၊ မှူးမတ်စုံညီ တက်ရောက်ကြသည်။ သံအဖွဲ့ဝင်အားလုံးလည်း တက်ရောက်သည်။ သားတော်ငယ် သောမသည် ပရိသတ် မိုလ်ပုံအလယ်တွင် ရဲရင့်စွာထိုင်လျက် မေးခွန်းသုံးသွယ်ကို ရှင်းလင်းပြတ်သားစွာ ဖြေဆိုသည်မှာ–

(၁)အရိုးသာ အတောင်အမြီး ဖြစ်သော ငှက်မှာ ပိတုန်း ဖြစ်ပါသည်။ (၂) အသားသာ အတောင်အမြီး ဖြစ်သော ငှက်မှာ ရှုးပျံ ဖြစ်ပါသည်။ (၃) အမွေးသာ အတောင်အမြီး ဖြစ်သော ငှက်မှာ ဥဒေါင်းဖြစ်ပါသည်။"

ဤသို့ ဖြေဆိုလိုက်သောအခါ သံအဖွဲ့ဝင်များက "ဟုတ်ပါပေသည်"ဟု ဆိုကာ သောမကို ချီးကျူးကြသည်။ ဆုလာဘ်များ ပေး

မင်္ဂလာပုံပြင် - ၂၄

# ရောင့်ရဲသူနှင့် မရောင့်ရဲသူများ



၂၄။ သန္တုဋ္ဌီ စ ၊
ဧတံ မင်္ဂလ'မုတ္တမံ။
လောဘ အလိုသို့ မလိုက်ဘဲ တင်းတိမ်ရောင့်ရဲခြင်းသည်
မြတ်သော မင်္ဂလာ မည်၏။

အပ်ကြသည်။ မင်းကြီးနှင့် တကွ မှူးမတ်ပြည်သူ အားလုံးလည်း ဝမ်းမြောက် ဂုဏ်ယူမဆုံး ရှိကြသည်။ ထိုနေ့မှာပင် မင်းကြီးသည် မှူးမတ်များနှင့် တိုင်ပင်ကာ သားတော်ငယ် သောမကို အိမ်ရှေ့အရာနှင့်အပ်ချီးမြှင့်လိုက်လေသည်။ ။



# ရောင့်ရဲသူနှင့် မရောင့်ရဲသူများ

လွန်လေပြီးသောအခါ ဗာရာဏသီပြည်ဝယ် လှည်းကုန်သည်တို့၏ အကြီးအမှူးဖြစ်သူ လှည်းမှူးတစ်ဦး ရှိ၏။ သူသည် လောဘနည်း၍ တင်းတိမ်ရောင့်ရဲသူ ဖြစ်သည်။

တစ်နေ့သ၌ လှည်းမှူးသည် လှည်းကုန်သည်တို့နှင့် အတူ လှည်းတို့တွင် ကုန်စည်များ တင်သည်။ ထို့နောက် အရပ်တစ်ပါးသို့ ကုန်သွယ်ရန် ဗာရာဏသီပြည်မှ ထွက်ခွာ လာခဲ့သည်။

သူတို့သည် လမ်းခရီး၌ ကန္တာရတစ်ခုကို ဖြတ်သန်းသွားရသည်။ ကန္တာရ အလယ်သို့ ရောက်သောအခါ ရေတွင်းဟောင်း တစ်ခုကို တွေ့ကြသည်။ ရေအလိုရှိကြသဖြင့် ရေတွင်းဟောင်းကို တူးကြသည။ ထိုအခါ မမျှော်လင့်ဘဲ ကြေးမည်း၊ ကြေးနီတို့ကို တွေ့ကြသည်။ ဆက်လက်တူးကြရာ ငွေ၊ ထို့နောက် ရွှေ၊ ထို့နောက် ပုလဲ၊ ထို့နောက် ကျောက်မျက်ရွဲ၊ ထို့နောက် ပတ္တမြားတို့ကို တွေ့ကြသည်။

လှည်းကုန်သည်တို့သည် ဤရတနာတို့ကို ရရှိသော်လည်း မရောင့်ရဲနိုင်ကြ။ လောဘဇောတိုက်ကာ အခြားရတနာတို့ တွေ့ဦးမည်ထင်ပြီး ဆက်လက်တူးကြမည် ပြုသည်။ ထိုအခါ လှည်းမှူးက “အချင်းတို့၊ ဤမျှဖြင့် တော်လောက်ပါပြီ။ ရောင့်ရဲကြပါ။ ဂေ့ဆက် မတူးကြပါနှင့်” ဟူ၍ တားမြစ်သည်။

လှည်းကုန်သည်တို့ကား မတင်းတိမ်။ မရောင့်ရဲနိုင်။ လှည်းမှူး၏ စကားကို မနာယူ။ လောဘဇောတိုက်ကာ ဆက်လက် တူးကြသည်။

ထိုတွင်းဟောင်းကား သာမန်တွင်း မဟုတ်။ နဂါးမင်း နေထိုင်

ရာ တွင်းဖြစ်သည်။ လှည်းကုန်သည်တို့ အလွန်နက်စွာ တူးကြသဖြင့် တွင်းအောက်တွင် နေသော နဂါးမင်းဗိမာန် ပျက်လေတော့သည်။ ဤတွင် နဂါးမင်းသည် အမျက်ထွက်သဖြင့် နှာခေါင်းလေဖြင့် မှုတ်သည်။ အဆိပ်ငွေ့များ ထွက်လာသည်။ လှည်းမှူးမှ တစ်ပါး လှည်းကုန်သည် အားလုံး အဆိပ်သင့်၍ သေကြေ ပျက်စီးကြကုန်၏။

ထိုအခါ နဂါးလုလင်တို့သည် လူယောင် ဖန်ဆင်းလျက် တွင်းအောက်မှ ထွက်လာကြသည်။ တင်းတိမ်ရောင့်ရဲမှု ရှိသော လှည်းမှူးကို ရန်မပြုရုံ မက၊ ရတနာတို့ကို လှည်းပေါ်သို့ တင်ပေးသည်။ လှည်းမှူးကို လှည်းတစ်စီးတွင် စီးစေကာ ရတနာတို့နှင့် အတူ အိမ်သို့ လိုက်ပို့ပေးသည်။ ထို့နောက် နဂါးပြည်သို့ ပြန်သွားကြလေသည်။

လှည်းမှူးလည်း မိမိရရှိသော ရတနာတို့ကို လူအများအား ပေးကမ်း လှူဒါန်းသည်။သီလ ဆောက်တည်၍ တင်းတိမ်ရောင့်ရဲစွာပင် နေထိုင်သည်။သေသည်၏ အဆုံး၌ နတ်ပြည်သို့ လားလေသည်။ ။

မင်္ဂလာပုံပြင် – ၂၅

# ကျေးဇူးသိသူ




၂၅။ ကတညုတာ ၊

တေ မင်္ဂလ'မုတ္တမံ ။

သူ့ကျေးဇူးကို သိခြင်းသည်

မြတ်သော မင်္ဂလာ မည်၏ ။

# ကျေးဇူးသိသူ

လွန်လေပြီးသောအခါ ဗာရာဏသီပြည်တွင် စိတ်ထားကောင်းသော ဘုရင်တစ်ပါး အုပ်စိုးသည်။ တစ်နေ့သ၌ နယ်စွန်နယ်ဖျားအရပ်တွင် သူပုန်များ ထကြွသောင်းကျန်းရာ ဘုရင်ကိုယ်တော်တိုင်ပင် စစ်သည်ဗိုလ်ပါတို့ကို ဦးဆောင်လျက် သွားရောက် နှိမ်နင်းသည်။

အစတွင် သူပုန်များက ချုံခိုတိုက်ခိုက်ရာ ဘုရင်သည် အရေးနိမ့်သွားသည်။ အဖော်များနှင့် ကွဲကာ ရွာတစ်ရွာသို့ တစ်ကိုယ်တည်း ဝင်ရောက် ခိုလှုံရသည်။ မင်ပန်းနွမ်းနယ်စွာဖြင့် မြင်းစီးလျက် တစ်ကိုယ်တည်း ရောက်လာသော ဘုရင်ကို တွေ့သောအခါ ရွာသားတို့သည် မင်းမှန်း မသိကြ။ ကြောက်လန့်ကာ ထွက်ပြေးကြသည်။ အိမ်များထဲသို့ ဝင်ရောက် ပုန်းအောင်းနေကြသည်။

ရွာသား တစ်ယောက်မူ သတ္တိလည်း ရှိသည်။ စိတ်ကောင်းစေတနာကောင်းလည်း ရှိသည်။ ထို့ကြောင့် ထွက်မပြေး၊ လမ်းမှားလာသူ ခရီးသွား မင်းချင်းတစ်ယောက် ဟူ၍ ထင်မှတ်ကာ ခရီးဦးကြိုပြုသည်။

"အဆွေ၊ ငါတို့ ဘုရင်မင်းမြတ်သည် သူပုန် သူကန်တို့ကို လာရောက်နှိမ်နင်းသည်ဟု ကြားရသည်။သင်အသူနည်း၊ မင်းချင်းယောကျ်ားလော"ဟူ၍ မေးမြန်းသည်။

ဘုရင်က မိမိ မင်းဖြစ်ကြောင်း ဖွင့်မပြော၊ "သင်ထင်သကဲ့သို့ ငါသည် မင်းချင်းယောကျ်ား တစ်ဦး ဖြစ်ပါသည်။ အဖော်များနှင့်

ကွဲ၍ လမ်းများ လာပါသည်။ ၄–၅ ရက်ခန့် တည်းခို အနားယူခွင့် ပြုပါ”ဟု ဆို၏။

ရှာသားလည်း ကြင်နာစွာပင် လက်ခံသည်။ မိမိအိမ်သို့ ဘုရင်ကို ခေါ်ဆောင်သွားသည်။ ရောက်လျှင် မယားအားခေါ်၍ ဘုရင်၏ ခြေကို ဆေးကြောပေးစေသည်။ ထို့နောက် မိမိတို့အိမ်ရှိ အကောင်းဆုံးသော ထမင်းဟင်းများကို ချက်ပြုတ်စေသည်။ သဒ္ဓါတရားထက်သန်စွာဖြင့် ကျွေးမွေး ပြုစုသည်။ ဘုရင် အိပ်ရန်လည်း သန့်ရှင်း ကောင်းမွန်သော အိပ်ရာကို ခင်းကျင်း ပြင်ဆင်ပေးသည်။ “အဆွေ၊ စိတ်ချလက်ချ အိပ်စက် အပန်းဖြေပါ။ အစစ အရာရာ ကျွန်ုပ်တာဝန်ယူပါသည်”ဟု နှစ်သိမ့်စကား ပြောကြားသည်။

ဘုရင် အိပ်ပျော်သွားသောအခါ ရှာသားသည် ဘုရင်စီးလာသော မြင်းကိုလည်း အစာကောင်းများ ကျွေးကာ ပြုစုစောင့်ရှောက် ထားသည်။

ဤသို့လျှင် ရှာသားသည် ဘုရင့်ကို သာမန် မင်းချင်း အမှတ်ဖြင့် ကောင်းစွာ ပြုစု စောင့်ရှောက်ထားသည်။ ရက်သတ္တ တစ်ပတ်ခန့်ကြာ၍ အားအင် ပြည့်လာသောအခါ ဘုရင်သည် ရွာမှ ထွက်ခွာသွားမည် ပြုသည်။ မသွားမီ သူနေထိုင်ရာ မင်းနေပြည်သို့ လာရောက်လည်ပတ်ရန် မှာကြားသည်။ “အဆွေ၊ ကျွန်ုပ်ကို ‘မြင်းစီးကြီး’ဟူ၍ ခေါ်ပါသည်။ မြို့တော်သို့ သင်လာလျှင် တောင်တံခါးစောင့်အား ‘မြင်းစီးကြီး’အိမ်ကို ပို့ပေးပါဟု ပြောပါ။ သူက လိုက်ပို့ ပေးပါလိမ့်မည်”ဟူ၍ မှာကြားသွားသည်။

ဘုရင်သည် ထိုရွာမှ ထွက်ခွာပြီး မကြာမီပင် မိမိကို ရှာဖွေနေသော စစ်သည် ဗိုလ်ပါများကို တွေ့ရသည်။ ချက်ချင်းပင်၊ ဗိုလ်ပါတို့ကို စုရုံးကာ သူပုန်များကို ထပ်မံ တိုက်ခိုက်သည်။ သူပုန်များ အရေး

နိုမ့် သွားသည်။ ဘုရင်သည် အောင်ပွဲခံကာ၊ နေပြည်တော်သို့ ပြန်လာခဲ့လေသည်။

နေပြည်တော်သို့ ရောက်သောအခါ ဘုရင်က တောင်တံခါးစောင့်အား "ရှာသားတစ်ယောက် လာလိမ့်မည်။ မြင်းစီးကြီး အိမ်ကို ပို့ပေးပါဟု ဆိုလိမ့်မည်။ ထိုသူ့ကို ငါ့ထံချက်ချင်း ပို့ပေးပါ။ သင့်ကို ဆုငွေတစ်ထောင် ချီးမြှင့်မည်"ဟု မှာ ကြားထားသည်။ ထို့နောက် ရှာသား၏ ဂုဏ်ကျေး ဇူးကို အောက်မေ့လျက် ရှာသားအလာကို မျှော်နေသည်။ ရှာသားကား ပေါ်မလာပေ။

ဤတွင် ရှာသား ရောက်လာစေရန် အကြံဖြင့် ဘုရင်က စီစဉ်သည်။ သူသည် ရှာသားနေသော ရွာကို အခွန်များ ကောက်ခံစေသည်။ သို့ရာတွင် ရှာသားကား ပေါ်မလာပေ။ ထိုအခါ အခွန်များကို နှစ်ဆတိုး၍ ကောက်ခံစေသည်။ ဤတွင် အဆို ပါရွာမှ ရှာသားများသည် မင်းအား ပြုစုခဲ့သော ရှာသားထံ ချဉ်းကပ်၍ "အဆွေ၊ သင့်မိတ်ဆွေ မြင်းစီးကြီး ရောက်လာပြီးမှ ငါတို့ရွာမှာ အခွန်များ တိုး၍ ဆောင်နေရသည်။ အခွန်အတုတ် ကြီးလေး၍ အားလုံး ဆင်းရဲပင်ပန်းလှပြီ။ မြင်းစီးကြီးထံ သင်သွားပါ။ အကျိုးအကြောင်း ပြော ပြ၍ အခွန်မှ လွတ်ငြိမ်းခွင့်ရအောင် ဆောင်ရွက်ပါ"ဟူ၍ ဝိုင်း ဝန်း မြော်ဆိုကြသည်။

ရိုးသားလှသော ရှာသားလည်း မနေသာတော့၊ နေပြည်တော်သို့ တက်သွားသည်။ မသွားမီ သူ့ မိတ်ဆွေ စားရန်အတွက် မုန့်များ လုပ်ကာ လက်ဆောင်အဖြစ် ယူသွားသည်။ သူသည် နေပြည်တော်သို့ ရောက်သွားသောအခါ မြင်းစီးကြီး မှာသည့်အတိုင်း တောင်တံခါးစောင့်ထံ သွား၍တွေ့ ဆုံသည်။ တောင်တံခါးစောင့်လည်း ဝမ်းသာအားရပင် ရှာသားကို မင်းထံ ခေါ်ဆောင် သွားလေသည်။ ထိုအခါတွင်မှ

ရှာသားသည် သူ့မိတ်ဆွေ မြင်းစီးကြီး ဆိုသူမှာ သာမန် မင်းချင်း တစ်ယောက် မဟုတ်၊ ဘုရင်မင်းမြတ် ဖြစ်နေသည်ကို အံ့သြစွာ သိရှိရလေသည်။

ကျေးဇူးသိတတ်၍ စိတ်ထားမွန်မြတ်လှသော ဘုရင်သည် ရှာသား ကို ဝမ်းမြောက်ဝမ်းသာ ကြိုဆိုသည်။ မိဖုရားအား ရှာသား၏ ခြေကို ဆေးစေသည်။ ထို့နောက် အစားကောင်း အသောက်ကောင်း များကို စီမံစေကာ ရှာသားကို ကျွေးမွေးသည်။ ရှာသား ယူဆောင် လာသော တောမုန့်ကြမ်းများကိုလည်း ဘုရင် ကိုယ်တိုင် အားပါး တရ စားသည်။ ရှာသားအား အဝတ်သစ်များ ဆင်ယင်ပေးသည်။ ရှာသားနေသော ရွာကို လည်း အခွန်အခများမှ ချက်ချင်း လွတ်ငြိမ်း ခွင့် ပေးလိုက်သည်။ ထို့ပြင် ရှာသား၏ မယားကိုလည်း ရွာမှ ခေါ် ယူစေသည်။ နန်းတော်အနီးတွင် အိမ်သစ် ဆောက်ပေးကာ မကြောင့် မကြ နေထိုင်စေသည်။ ထို့မျှမက မင်းစည်းစိမ် တစ်ဝက်ကိုပါ ခွဲဝေ ပေးသည်။

ထိုအခါ အိမ်ရှေ့မင်းနှင့် မှူးမတ်တို့ မကျေမနပ် ဖြစ်ကြသည်။ "ကျေးတောသားအား အကြောင်းမဲ့ မြှောက်စားပေးသည်" ဟူ၍ ဆို ကြသည်။

ဤတွင် ဘုရင်က ဖြစ်ပျက်ပုံ အလုံးစုံကို ပြောပြသည်။ "ငါ စစ်ရှုံး၍ ဒုက္ခရောက်စဉ် ငါ့ ကျေးဇူးရှင် သည်ရှာသားက ကယ်၍သာ ငါတစ်ဖန် စစ်အောင်ရသည်။ သူ့ကျေးဇူး ကြီးလှသည်။ လောကခွဲ ကျေးဇူးပြုသူကို တုံ့ပြန်ပူဇော် ရမည်မှာ သူတော်ကောင်းတို့၏ ကျင့် စဉ် ဖြစ်သည်" ဟူ၍ ဆုံးမပြောဆိုသည်။

ထိုအခါတွင်မှ အိမ်ရှေ့မင်းနှင့် မှူးမတ်တို့သည် အမြင်မှန်ရကာ ကျေနပ်သွားကြလေသည်။ ။

မင်္ဂလာပုံပြင် – ၂၆

# ဖားနတ်သား



၂၆။ ကာလေန ဓမ္မဿဝနံ ၊
ဧတံ မင်္ဂလ'မုတ္တမံ ။
သင့်လျော်သော အခါ၌ တရားနာခြင်းသည်
မြတ်သော မင်္ဂလာ မည်၏။

# ဖားနတ်သား

တစ်ရံရောအခါ ဗုဒ္ဓဘုရားရှင်သည် စမ္ပာပြည်ရှိ ဂဂ္ဂရာ ရေကန် အနီးဝယ် သီတင်းသုံးလျက် ရှင်လူအများအား တရားဟောတော် မူသည်။

ထိုစဉ် ကန်အတွင်း၌ နေသော ဖားငယ် တစ်ကောင်သည် ရေ ကန်ထဲမှ ထွက်လာသည်။ ပရိသတ် အစွန်တစ်နေရာ၌ ဝပ်လျက် "သည်အသံသည် တရားတော်၏ အသံပင်တည်း" ဟူ၍ အာရုံပြုကာ နာယူလျက် ရှိသည်။ ထိုအခိုက် နွားကျောင်းသား တစ်ယောက်သည် လည်း ထိုနေရာသို့ ရောက်လာသည်။ ငြိမ်သက်စွာဖြင့် ပရိသတ် အများ တရားနာယူနေသည်ကို မြင်တွေ့သောအခါ ကြည်ညိုစိတ် ဖြစ်ပေါ်လာသည်။ ဝင်ရောက် တရားနာယူသည်။ တရားနာရာ၌ သူသည် နွားမောင်းသည့် နှင်တံတုတ်ကို ထောက်လျက် နာယူသည်။ ထိုအခါ သူ၏နှင်တံတုတ်သည် ဖားငယ်၏ ဦးခေါင်းပေါ်သို့ မတော် တဆ ထောက်မိသွားသည်။ နွားကျောင်းသားသည် ဖားငယ်ကိုလည်း မမြင်။ ထိုအဖြစ်ကိုလည်း မသိ။ ဖားငယ် ခမျာမှာ ထိုနှင်တံတုတ် ထောက်မိသဖြင့် ထိခိုက်ဒဏ်ရာရကာ ထိုနေရာမှာပင် သေဆုံးသွား ရှာသည်။

ဖားငယ်သည် တရားတော်၏ အနက်အဓိပ္ပာယ်ကို မသိ။ သို့ ရာတွင် တရားတော်ကို အာရုံပြုလျက် ကြည်သာရွှင်လန်းသော စိတ် အစဉ်ရှိနေစဉ် သေဆုံးသွားသဖြင့် တာဝတိံသာ နတ်ပြည်ဝယ် နတ် သား သွားဖြစ်သည်။ အလွန် တင့်တယ်သော ရွှေဗိမာန်၌ နတ်သမီး

အခြံအရံပေါင်း များစွာဖြင့် စံစားရသည်။ မဏ္ဍုကဒေဝပုတ္တ (ဖား နတ်သား)ဟူ၍ အမည်တွင်သည်။

ထိုဖားနတ်သားသည် 'မည်သို့သော ကုသိုလ်ကံကြောင့် သည် ဘဝသို့ ငါရောက်ရပါ သနည်း'ဟု ဆန်းစစ်ကြည့်သည်။ ထိုအခါ အတိတ်ဘဝက ဖားသူငယ်ဖြစ်ခဲ့ပုံနှင့် တကွ ဖြစ်ကြောင်း ကုန်စင်ကို သိရှိရသည်။ သို့ဖြင့် သူသည် အခြံအရံများနှင့် တကွ လူ့ပြည်သို့ ဆင်းသည်။ တရားဟောနေသော ဘုရားရှင်ကို သွားရောက် ဖူး မြော်သည်။ တရားနာ ပရိသတ်တို့သည် တင့်တယ်သော အသွင်ကို ဆောင်နေသည့် ဖားနတ်သားနှင့် တကွ အခြံအရံတို့ကို ထင်ရှား တွေ့မြင်ကြရသည်။ အံ့ဩရင်သပ်မဆုံး ရှိကြသည်။ ဘုရားရှင်မှု အံ့ဩခြင်း မဖြစ်။ ဖားနတ်သား၏ ဖြစ်ကြောင်းကုန်စင်ကို တန်ခိုး တော်ဖြင့် သိမြင်တော်မူပြီး ဖြစ်သည်။ သို့ရာတွင် ပရိသတ်များ ထင်ရှားစွာ သိစေလိုသဖြင့် ဖားနတ်သားကို "အခြံအရံ အစုံအညီ ဖြင့် နှစ်သက်ဖွယ်သော အရောင်အဆင်းကို ဆောင်လျက် ငါ၏ ခြေတော်သို့ ဦးခိုက် ရှိခိုးလာသူကား အဘယ်သူနည်း"ဟု မေးတော် မူသည်။

ဖားနတ်သားက "အရှင်ဘုရား၊ အကျွန်ုပ်သည် ရှေးဘဝက ရေ၌ ကျက်စားသော ဖားသတ္တဝါ ဖြစ်ခဲ့ဖူးပါသည်။ အရှင်ဘုရား၏ တရားတော်ကို နာနေစဉ် နွားကျောင်းသား၏ နှင်တံထောက်မိသဖြင့် သေဆုံးခဲ့ရပါသည်။ တစ်ခဏမျှ စိတ်ကြည်ညိုခြင်း ဖြစ်စဉ် သေဆုံး ခဲ့ပါသဖြင့် တာဝတိံသာ နတ်ပြည်တွင် နတ်သား သွားဖြစ်ပါသည်။ ထူး ခြားသော တန်ခိုးတေဇာကိုလည်း ရပါသည်။ များပြားသော အခြံ အရံကိုလည်း ရပါသည်။ တင့်တယ်သော အရောင်အဆင်းကိုလည်း ရပါသည်"ဟူ၍ လျှောက်ထားသည်။

ထိုအခါ ဘုရားရှင်သည် တရားနာခြင်း၏ အကျိုးကို ရှင်းလင်း ဟောပြောတော်မူသည်။ နိဗ္ဗာန်ရောက်ကြောင်း တရားကိုလည်း ဆက်လက် ဟောပြောတော်မူသည်။ တရားအဆုံးတွင် ဖားနတ်သား သည် သောတာပန် တည်သွားလေသည်။ တရားနာ ပရိသတ်တို့လည်း ထူးမြတ်သော အကျိုးကျေးဇူးကို ခံစား ရရှိကြလေသည်။ ။



မင်္ဂလာပုံပြင် – ၂၇

# သည်းခံသော ရသေ့မြတ်



၂၇။ ခန္တီ စ ၊

ဧတံ မင်္ဂလ'မုတ္တမံ ။

သည်းခံခြင်းသည်

မြတ်သော မင်္ဂလာ မည်၏။

# သည်းခံသော ရသေ့မြတ်

လွန်လေပြီးသောအခါ ဗာရာဏသီပြည်ဝယ် ကလာဗုမင်း အုပ်စိုးစဉ် ကုဋေရှစ်ဆယ် ကြွယ်ဝသော သူဌေးသား ပုဏ္ဏား လုလင်တစ်ဦး ရှိသည်။ ကုဏ္ဍလလုလင်ဟု အမည်တွင်သည်။

ထိုလုလင်သည် အရွယ်ရောက်ချိန်၌ ပညာ သင်ယူသည်။ ပညာများ တတ်မြောက်၍ မကြာ မြင့်မီပင် မိဘနှစ်ပါး ကွယ်လွန်ရာ သတိ သံဝေဂ ရသွားသည်။ သို့ဖြင့် ပစ္စည်း အားလုံးကို လှူဒါန်း စွန့်ကြဲကာ ဟိမဝန္တာသို့သွား၍ ရသေ့ဝတ်လျက် နေထိုင်သည်။

တစ်နေ့တွင် ရသေ့သည် ချဉ်ဆား မှီဝဲရန် ဗာရာဏသီ ပြည်သို့ ရောက်လာသည်။ မင်း ဥယျာဉ်၌ ခေတ္တ သီတင်းသုံး နေထိုင်သည်။ မြို့တွင်း၌ ဆွမ်းခံ ကြွရာ စစ်သူကြီးက ကြည်ညိုသဖြင့် အိမ်သို့ ပင့်ဆောင်သည်။ ဆွမ်းလှူသည်။ ထို့နောက် ရသေ့အတွက် မင်း ဥယျာဉ်၌ ကျောင်းငယ် ဆောက်ပေးကာ ကိုးကွယ်ထားသည်။

တစ်နေ့သ၌ ကလာဗုမင်းသည် အရက်သေစာ သောက်စားပြီးလျှင် ကချေသည်များ ခြံရံလျက် ဥယျာဉ်တော်သို့သွား၍ စည်းစိမ် ခံစားသည်။ သူသည် မင်္ဂလာ ကျောက်ဖျာပေါ်၌ နေရာခင်း စေ၍ သူ့ချစ်သူ အမျိုးသမီး၏ ရင်ခွင်၌ ကျိန်းစက်သည်။ ကချေသည် တို့သည် သီဆိုတီးမှုတ် ကခုန်ရာမှ မင်းကြီး အိပ်ပျော်သော အခါ ဥယျာဉ်တော်သို့ လှည့် လည် ကြည့်ရှုကြသည်။

ထိုစဉ် အင်ကြင်း ပင်ရင်း၌ ထိုင်လျက် တရားအာရုံ ပြုနေသော ရသေ့ကိုမြင်ရာ ကြည်ညိုလှသဖြင့် ဝင်ရောက် ရှိခိုးကြသည်။ ဆို

ဆုံးမရန် တောင်းပန်၍ တရားနာယူကြသည်။

အတန်ကြာသော် ကလာဗုမင်းသည် အိပ်ရာမှ နိုးလာသည်။ ကချေသည်များကို မမြင်၍ သူ၏ ချစ်သူကို မေးသည်။ အမျိုးသမီးက ရသေ့တစ်ပါး ထံတွင် ကချေသည်များ တရားသွား နာနေကြောင်း ပြောပြသည်။ ထိုအခါ မင်းသည် ဒေါသ အမျက် ခြောင်းခြောင်း ထွက်သည်။ သန်လျက်ကို စွဲလျက် ရသေ့ထံ အပြေးအလွှား သွား ရောက်သည်။ တည်ငြိမ်စွာဖြင့် တရားဟောနေသော ရသေ့ကို တွေ့ သော အခါ ဒေါသဖြင့် ဟစ်အော် မေးမြန်းသည်။

"ရသေ့၊ သင်သည် အဘယ်ဝါဒ ရှိသနည်း။"

"မင်းမြတ်၊ ငါသည် ခန္တီဝါဒ ရှိ၏။"

"ရသေ့၊ ခန္တီဝါဒ ဆိုသည် အဘယ်နည်း။"

"မင်းမြတ်၊ မိမိကိုယ်ကို ဆဲရေးသူအား ဖြစ်စေ၊ ရိုက်ပုတ် ညှဉ်းဆဲသူအား ဖြစ်စေ အမျက် ဒေါသ မထားဘဲ သည်းခံခြင်းသည် ခန္တီပင် ဖြစ်သည်။"

ထိုအခါ မင်းမိုက်သည် ပါးကွက် အာဏာသား ကိုခေါ်၍ ဆူး တပ်ထားသော ကြိမ်ဖြင့် ရသေ့၏ ကျောပြင်နှင့် နံဘေး နှစ်ဖက်တို့ကို ရိုက်နှက်စေသည်။ ရသေ့ကား မမှုပေ။ ထိုအခါ "ရသေ့၊ သင် သည် အဘယ်ဝါဒ ရှိသနည်း" ဟု မေးပြန်သည်။ ရသေ့က "မင်းမြတ်၊ ငါသည် ခန္တီဝါဒ ရှိပါသည်"ဟူ၍ပင် ဖြေဆိုသည်။ သည်တွင် မင်း မိုက်သည် ရသေ့၏ လက်နှစ်ဖက်နှင့် ခြေနှစ်ဖက်တို့ကို ဖြတ်စေ ပြန်သည်။ ရသေ့ကား အမျက်မထွက်။

မင်းမိုက်က "ရသေ့၊ သင်သည် အဘယ် ဝါဒ ရှိပါသနည်း"ဟု မေးပြန်သည်။ ရသေ့ကား အဖြေ မပြောင်း ယခင် အတိုင်းပင် ဖြေ ကြားသည်။ ဤတွင် မင်းမိုက်သည် ရသေ့၏ နား ၊ နှာခေါင်း တို့ကို

ဖြတ် စေပြန်သည်။ ရသေ့ကား မမှု။ ယခင် အတိုင်းပင် ခန္တီဝါဒ ထားကြောင်း ဖြေကြားသည်။ ထို အခါ မင်းမိုက်က 'ရသေ့စဉ်းလဲ၊ သင့်ခန္တီကို သင် သာလျှင် စောင့်ထိန်း၍ နေလော့'ဟု ဆိုကာ ရသေ့၏ ရင်ဝကို ခြေဖြောက်ဖြင့် ကန်ကာ ထွက်ခွာသွား လေသည်။

မကြာမီ စစ်သူကြီး ရောက်လာကာ ရသေ့၏ ကိုယ်မှ သွေးများကို ကြင်နာစွာဖြင့် သုတ်သင်ပေးသည်။ ဒဏ်ရာများကို ပြုစုပေးသည်။

သို့ပြုရာမှ "အရှင်ဘုရား၊ အမျက် ထွက်လိုလျှင် ကျူးလွန်ပြစ်မှားသော မင်းကိုသာ အမျက် ထွက်တော်မူပါ။ ပြည်သူများကိုကား အမျက် ထွက်တော် မမူပါနှင့်"ဟူ၍ တောင်းပန်သည်။

ရသေ့က "ငါသည် မည်သူ့ကိုမျှ အမျက် မထွက်ပါ။ ငါနှင့်တူသော ပညာရှိများ သည်လည်း မည်သူ့ကိုမျှ အမျက် မထွက်တတ်ပါ။ ငါ၏ လက်၊ ခြေ၊ နား၊ နှာခေါင်း တို့ကို ဖြတ်ခဲ့သော မင်းသည် သက်တော်ရှည်ပါစေ"ဟု ဆုတောင်း၏။

သို့ရာတွင် မကောင်းမှု ပြုခဲ့သော ကလာဗု မင်းသည် အပြစ်မှ မလွတ်။ ရသေ့အနီးမှ ထွက်ခွာပြီး ဥယျာဉ် တံခါးဝသို့ အရောက်တွင် မရှုမလှပင် မြေမျိုခံရပြီး အဝီစိ ရောက်သွားလေသည်။

ရသေ့သည်လည်း ထိုနေ့၌ပင် လွန်တော်မူရှာသည်။ စစ်သူကြီး၊ မင်းပရိသတ်နှင့် ပြည်သူအပေါင်းတို့သည် ရသေ့မြတ်၏ အလောင်းတော်ကို ပန်းနံ့သာ အမွှေးအထုံတို့ဖြင့် ပူဇော်လျက် ရိုသေစွာ သဂြိုဟ်ကြကုန်သည်။ ရသေ့မြတ်သည် ကောင်းရာ သုဂတိသို့ လားပြီးလျှင် ဘဝများစွာ ကျင်လည်ပြီးနောက် ဂေါတမ မြတ်စွာဘုရား အဖြစ်သို့ ရောက်တော်မူ ခဲ့ပေသည်။ ။

# အဖစကား နာယူသူ



၂၈ ။ သောဝစဿတာ ၊
တေံ မင်္ဂလမုတ္တမံ ။
ဆုံးမလွယ်ခြင်းသည်
မြတ်သော မင်္ဂလာ မည်၏ ။

# အဖစကား နာယူသူ

တစ်ခါသော် ဗြဟ္မဒတ်မင်းသည် ဒီဃီတိ ကောသလမင်းကို စစ်တိုက်ရန် မိမိ၏ နိုင်ငံမှ ရဲမက်များကို ဦးဆောင် ချီတက်လာသည်။ ဒီဃီတိမင်းမှာ အင်အားချင်း မမျှသဖြင့် မိဖုရားကို ခေါ်ကာ တိုင်းပြည်မှ ထွက်ပြေးသွားရသည်။ မြို့စွန် တစ်နေရာရှိ အိုးထိန်းသည်၏ နေအိမ်၌ ရုပ်ဖျောက်၍ မထင်မရှား နေထိုင်သည်။

မကြာမီ မိဖုရားကြီး၌ ကိုယ်ဝန်တည်ကာ သားတော် ဖွားမြင်သည်။ 'ဒီဃာဝုမင်းသား'ဟု အမည်ပေးသည်။ ဒီဃီတိ ကောသလမင်းက "ငါတို့ ရုပ်ဖျောက် နေထိုင်သည်ကို တစ်နေ့မဟုတ်၊ တစ်နေ့ နေ့တွင် ဗြဟ္မဒတ်မင်း သိနိုင်သည်။ ထိုအခါ ငါတို့ကို ဖမ်း၍ သတ်လျှင် သားတော်ပါ အသတ်ခံရလိမ့်မည်" ဟူ၍ ဆင်ခြင်ကာ မင်းသားကို အခြားလုံခြုံသော တစ်နေရာသို့ ပို့ထားသည်။ အတတ်ပညာ သင်စေသည်။

မင်းကြီး ကြိုတင်မှန်းဆသည့် အတိုင်း တစ်နေ့တွင် ဗြဟ္မဒတ်မင်းကြီးသည် ဒီဃီတိ ကောသလမင်းနှင့် မိဖုရားကို တွေ့ရှိသွားသည်။ ချက်ချင်းပင် ဖမ်းဆီးသည်။ သတ်ရန် သုသာန်ကုန်းသို့ ခေါ်ဆောင်သွားစေသည်။

ဒီဃာဝု မင်းသားသည် အတတ်ပညာများ တတ်မြောက်သဖြင့် မိဘနှစ်ပါးကို ခေတ္တတွေ့ရန် ပြန်လာသည်။ ထိုအခါ သုသာန်ကုန်းသို့ ဆောင်ယူသွားသော မိဘနှစ်ပါးကို တွေ့ရသည်။ လမ်းဘေးဝဲယာမှ လူအများသည် မင်း၊ မိဖုရားနှစ်ပါးကို ကြည့်နေကြသည်။ ဒီဃာဝု

မင်းသားသည် ထိုသူများအကြားမှ နေ၍ မိဘနှစ်ပါးကို လှမ်းကြည့်ရှာသည်။

ဒီဃီတိ ကောသလ မင်းသည် လူအုပ်ထဲတွင် သားတော်ကို မြင်သောအခါ ဆုံးမစကားကို တစ်ကိုယ်တည်း ပြောကြားသွားသည်။

"ရန်တို့ မည်သည်မှာ ရန်တုံ့မူသဖြင့် မငြိမ်းအေးကုန်၊ ရန်တုံ့မမူသဖြင့်သာ ငြိမ်းအေးကုန်၏။"

ထိုအခါ လူတို့က "ဤမင်းသည် ရူးသွပ်နေသဖြင့် တစ်ကိုယ်တည်း ထင်ရာယောင်ယမ်းမြည်တမ်းနေသည်"ဟု ဆိုကြ၏။

မင်းကြီးက "အမောင်တို့၊ ရူးသွပ်သဖြင့် ငါယောင်ယမ်း မြည်တမ်းခြင်း မဟုတ်။ ငါ့စကားကို ပညာရှိတို့ သိကြလိမ့်မည်"ဟူ၍ ပြန်ပြော၏။

သူသတ်ကုန်းသို့ ရောက်သောအခါ သူသတ်တို့လည်း မင်းမိဖုရားနှစ်ပါးကို အဆုံးစီရင် လိုက်ကြလေသည်။ ဒီဃာဝု မင်းသားသည် အစောင့်တို့အား အရက်မူးအောင် တိုက်သည်။ မူး၍လဲကျသော် အမိအဖတို့၏ အလောင်းကို ကောင်းစွာ မီးသဂြိုဟ်သည်။ အားရအောင် ငိုကြွေးမြည်တမ်းသည်။ ထို့နောက် မျက်ရည်များကို သုတ်ပြီး လျှင် ဗြဟ္မဒတ်မင်း၏ ဆင်ဆရာထံသွား၍ တပည့်ခံကာ နေထိုင်သည်။ နံနက်တိုင်း စောင်းတီးလျက်၊သီချင်း ဆိုသည်။ မင်းကြီးကြားလျှင် နှစ်သက်သဖြင့် မိမိထံ ခေါ်ထားသည်။ စောင်းတီး၍ ဖျော်ဖြေစေသည်။ ဒီဃာဝု မင်းသားလည်း အမှုကိစ္စတို့ကို ကျွမ်းကျင်လိမ္မာစွာ ဆောင်ရွက်ပေးသည်။ မင်းကြီး ပိုမိုနှစ်သက်သဖြင့် အတွင်းတော်၌ ခစား ထမ်းရွက်စေသည်။

တစ်နေ့သ၌ မင်းကြီးသည် ဒီဃာဝုမင်းသားကို ရထား မောင်းစေလျက် ဥယျာဉ်တော်သို့ ထွက်တော်မူသည်။ ဥယျာဉ် ရောက်သော

အခါ ဒီဃာဝုမင်းသားသည် မင်းကြီးအား မင်းချင်းများနှင့် ဝေးရာ အရပ်သို့ ပရိယာယ်ဖြင့် ခေါ်ဆောင်သွားသည်။ မင်းကြီးသည် "မင်ပန်းသဖြင့် တစ်ရေးအိပ်မည်"ဆိုကာ ရထားကို ရပ်နိုင်းသည်။ ထို့နောက် ရထားမှဆင်းကာ သစ်ရိပ်အောက်သို့ သွားသည်။ ဒီဃာဝု မင်းသား၏ ပေါင်ကို ခေါင်းအုံး၍ စက်တော်ခေါ်သည်။

မင်းကြီး အိပ်ပျော်သွားသောအခါ မင်းသားက'အခွင့်ရပြီ။ ငါ့ အမိ၊ အဖတို့ သတ်သူကို ယခု ပြန်သတ်နိုင်ပြီ'ဟု ကြံလျက် သန်လျက်ကို ဆွဲထုတ်သည်။ ထိုစဉ် သူသတ်ကုန်းသို့ ဖခင် အသွားတွင် ပြောဆို ဆုံးမသွားသော စကားတို့ကို သတိရသွားသည်။ မင်းကြီးကို မသတ်ဘဲ သန်လျက်ကို ချထားလိုက်သည်။ ထို့နောက် သတ်မည် ပြုပြန်သည်။ အဖစကားကို သတိရကာ မသတ်ဖြစ်ပြန်။ ဤသို့လျှင် ၃–ကြိမ်တိုင် ချီတုံချတုံ ဖြစ်ခဲ့သည်။

ထိုစဉ် မင်းကြီး နိုးလာသည်။ ဒီဃာဝုမင်းသားသည် လက်ဝဲလက်ဖြင့် မင်း၏ ဥဿျောင်ကို ဆွဲလျက် လက်ျာလက်ဖြင့် သန်လျက်ကိုင်ကာ မိမိသည် ကောသလမင်း၏သား ဒီဃာဝု မင်းသား ဖြစ်ကြောင်းမှ စ၍ အကြောင်းစုံ ပြောပြသည်။ "အရှင်မင်းကြီးသည် ကျွန်ုပ်၏လက်မှ လွတ်နိုင်ပါမည်လော်"ဟု ဆိုသည်။

ဗြဟ္မဒတ်မင်းလည်း "အမောင်၊ သင့်လက်မှ ငါ မလွတ်နိုင်တော့ပါ"ဟု ဆိုကာ တောင်းပန်စကား ပြောကြားသည်။

ဒီဃာဝုမင်းသားက "အရှင်မင်းကြီး၊ 'ရန်တုံ့မူသဖြင့် ရန်တို့သည် မငြိမ်းအေးကုန်။ ရန်တုံ့မမူမှသာ ရန်တို့ ငြိမ်းအေးကုန်သည်'ဟု ကျွန်ုပ်၏ ဖခင် ဆုံးမသွားပါသည်။ ထိုအဆုံးအမ အတိုင်း ကျွန်ုပ် သင့်ကို ရန်မပြုတော့ပါ။ အကယ်၍ သင် ရန်ပြုလိုပါမူ ကျွန်ုပ်ကို သတ်နိုင်ပါသည် "ဆိုကာ သန်လျက်ကို ပေး၏။

မင်းကြီးကလည်း "အမောင်၊ ငါလည်း သင့်ကို ရန်မပြုပါ" ဟု ဆိုကာ နန်းတော်သို့ ပြန်ခေါ်သွားသည်။ မိမိ၏ သမီးတော်နှင့် ထိမ်းမြား ပေးစားသည်။ ဒီဃီတိ ကောသလမင်း၏ ထီးနန်းကို ဒီဃာဝု မင်းသားအား ပြန်လည်နှင်းအပ်သည်။

ထိုအခါမှ စ၍ မင်းနှစ်ပါးတို့သည် ညီညွတ် ငြိမ်းအေးစွာဖြင့် မိမိနိုင်ငံကိုမိမိ ကိုယ်စီ မင်းပြုကြလေသည်။ ။



## မင်္ဂလာပုံပြင် - ၂၉

# ခွေးလိမ္မာ၏ ကုသိုလ်



၂၉။ သမဏာနဉ္စ ဒဿနံ ၊
ဧတံ မင်္ဂလ'မုတ္တမံ ။
ရဟန်းတော်များကို ဖူးမြော်ရခြင်းသည်
မြတ်သော မင်္ဂလာ မည်၏။

# ခွေးလိမ္မာ၏ ကုသိုလ်

ရှေးသရောအခါ အလွှကပ္ပ အမည်ရှိသော တိုင်းဝယ် ကူးစက်တတ်သော ရောဂါကြီးတစ်မျိုး ဖြစ်ပွားသည်။ ထိုရောဂါသည် တစ်ယောက်ပြီး တစ်ယောက်၊ တစ်အိမ်ပြီး တစ်အိမ်၊ တစ်ရွာပြီး တစ်ရွာ၊ တစ်မြို့ပြီးတစ်မြို့ ကူးစက်ပြန့်ပွားသည်။ ဆေးကု၍ မရ။ လူအများ သေကြေ ပျက်စီးကြသည်။

ထိုအခါ ယောကျ်ား တစ်ယောက်သည် ကြောက်ရွံ့လှသဖြင့် မိမိ၏ ဇနီးနှင့် သားငယ်ကို ခေါ်ယူကာ အခြားတိုင်း တစ်တိုင်းသို့ ထွက်ပြေးသည်။ ကန္တာရ ခရီးကြမ်းကို ဖြတ်သန်းသွားရသည်။

လမ်းခရီးတွင် အခက်အခဲ အမျိုးမျိုးကို ကျော်လွှန်ပြီးနောက် သူတို့ ဇနီးမောင်နှံနှင့် သားငယ်တို့သည် အသက်မသေဘဲ ကန္တာရခရီးကို လွန်မြောက်လာကြသည်။ ညနေချမ်းအချိန်၌ နွားကျောင်းသားတဲ တစ်ခုသို့ ရောက်လာကြသည်။

ထိုနေ့မှာ နွားကျောင်းသားတဲ၌ နေသူတို့သည် ရေမရောသော နို့ဃနာကို ချက်ထားသောနေ့ ဖြစ်လေသည်။ တဲနေသူတို့လည်း သူတို့ သုံးယောက်ကိုမြင်လျှင် ကရုဏာဖြစ်မိကြသည်။

“ဤသားအဖ သုံးယောက်တို့ကား အလွန့်အလွန် ဆာလောင်မွတ်သိပ် နေကြရှာသည်”ဟု ဆိုကာ နို့ဃနာကို အိုးအပြည့် ထည့်ပေးသည်။ ထောပတ်များစွာကိုလည်း လောင်းထည့်ပေးသည်။ အဝစားကြစေသည်။

ဖနီးဖြစ်သူသည် ဆားလောင် မွတ်သိပ်သော်လည်း မျှတရုံသာ စားသည်။ လင်ဖြစ်သူကား အတိုင်းအရှည်မရှိ၊ မျှတရုံထက် ပိုလွန်အောင် စားသည်။ ဤတွင် အစာမကြေရောဂါ ရကာ ထိုညဉ့် လွန်လျှင်ပင် သေဆုံးသွားလေသည်။ ထိုသူသည် သေခါနီးဝယ် စိတ်စွဲလမ်းတပ်မက်သဖြင့် နွားကျောင်းသားတဲရှိ ခွေးမ၏ဝမ်း၌ ပဋိသန္ဓေယူလေသည်။

ခွေးမသည် လစေ့သော် သားငယ်ကို ဖွား၏။ နွားကျောင်းသားသည် ထိုခွေးငယ်ကို ချစ်ခင်သဖြင့် အစာကောင်းစွာ ကျွေးသည်။ မိမိသွားလေရာသို့ အတူ ခေါ်ဆောင်သွားလေ့ရှိသည်။

တစ်နေ့သ၌ ပစ္စေကဗုဒ္ဓါ ဖြစ်ပါးသည် နွားကျောင်းသား၏ အိမ်တံခါးဝသို့ ဆွမ်းခံကြွရောက်လာသည်။ နွားကျောင်းသားသည် ပစ္စေကဗုဒ္ဓါကို ဆွမ်းကပ်လှူသည်။ ကြည်ညိုလှသဖြင့် မနီးမဝေးတွင် တစ်ဝါတွင်း သီတင်းသုံးတော် မူပါရန် တောင်းပန်သည်။ ဆွမ်းကိုလည်း မိမိကပင် တာဝန်ယူ လှူဒါန်းလိုပါကြောင်း လျှောက်ထားသည်။ ပစ္စေကဗုဒ္ဓါ အရှင်မြတ်လည်း လက်ခံတော်မူသည်။ နွားကျောင်းသားတဲနှင့် မနီးမဝေး တောအုပ်တစ်ခု၌ သီတင်းသုံး နေထိုင်တော်မူသည်။

နွားကျောင်းသားသည် ပစ္စေကဗုဒ္ဓါ အရှင်မြတ်ထံသို့ သွားလျှင် ခွေးငယ်ကို ခေါ်ဆောင်သွားတတ်သည်။ သို့သွားစဉ် လမ်းခရီးအကြား၌ သားရဲတို့ ရှောင်ရှား ပြေးသွားကြစေရန် သစ်ပင် ချုံပုတ်များကို တွေ့လျှင် ပုတ်ခတ်ရိုက်နှက်၍ သွား၏။ ခွေးငယ်ကလည်း မိမိသခင်ပြုလုပ်ပုံကို မှတ်သားထားသည်။

တစ်နေ့သ၌ နွားကျောင်းသားသည် ပစ္စေကဗုဒ္ဓါ အရှင်မြတ်အား "မိမိ မအားလပ်သောအခါ မိမိကိုယ်စား ခွေးငယ်အား လွှတ်လိုက်ပါမည်။ ခွေးငယ် ရောက်လာချိန်တွင် မိမိအိမ်သို့ ဆွမ်းအလှူခံ ကြွ

ရောက်ပါမည့်အကြောင်း”မှာကြား လျှောက်ထားသည်။

ယင်းသို့ မှာထားသည့် အတိုင်းလည်း မိမိ မအားလပ်သော နေ့များတွင် ခွေးလိမ္မာကလေးကို လွှတ်သည်။“ချစ်သား၊ပစ္စေကဗုဒ္ဓါ အရှင်မြတ်ကို သွားရောက် ပင့်ဆောင်လော့”ဟူ၍ ဆိုသည်။ ခွေးလိမ္မာ ကလေးကလည်း ဆွမ်းခံချိန်၌ သွားရောက်ပြီးလျှင် အရှင်မြတ်၏ ခြေရင်း၌ ဝပ်တွားနေသည်။

အရှင်မြတ်လည်း ‘ဤခွေးလိမ္မာကလေးသည် ငါ့ထံမှောက်သို့ အပင့်ရောက်လာလေသည်’ဟု သိရှိတော်မူကာ ဆွမ်းခံကြွတော်မူသည်။ တစ်ခါတစ်ရံတွင် အရှင်မြတ်သည် ခွေးလိမ္မာကလေးကို စုံစမ်းတော် မူလိုသဖြင့် လမ်းလွှဲ၍ ကြွသွားတော်မူလေသည်။ ထိုအခါ ခွေးသည် အရှင်မြတ်၏ရှေ့မှ တားဆီး ရပ်တည်သည်။ လမ်းမှန်သို့ သွားမှ ဖယ်ရှားပေးသည်။ သူ့သခင် နွားကျောင်းသားသည် သားရဲတို့ ရှောင် ရှားစေရန် သစ်ပင်ချုံပုတ်များကို ပုတ်ခတ်ရိုက်နှက်သော နေရာသို့ ရောက်လျှင်လည်း ကျယ်လောင်စွာ ဟိန်းဟောင်သည်။ ထိုခွေး ဟိန်း ဟောင်သံကြောင့် သားရဲများလည်း ရှောင်ရှားသွားကြသည်။ အရှင် မြတ်သည် နွားကျောင်းသား တဲဝယ် ဆွမ်းဘုဉ်းပေးတော် မူသောအခါ ဆွမ်းကျန်အချို့ကို ခွေးလိမ္မာအား ပေးကမ်းကျွေးမွေးသည်။ ထိုအခါ ခွေးလိမ္မာသည် အရှင်မြတ်ကို ရှေးကထက် တိုး၍ ခင်မင်လာလေသည်။

နွားကျောင်းသားသည် ဝါကျွတ်သော အခါ အရှင်မြတ်အား သင်္ကန်း ဆက်ကပ် လှူဒါန်းသည်။ “အရှင်ဘုရား၊ အလိုတော်ရှိလျှင် ဤအရပ်၌ပင် ဆက်လက် သီတင်းသုံးတော်မူပါ။ အရပ်တစ်ပါးသို့ ကြွသွားတော်မူလိုလျှင်လည်း ကြွသွားတော်မူပါ”ဟု လျှောက်ထား သည်။ အရှင်မြတ်လည်း အရပ်တစ်ပါးသို့ ကြွသွားတော်မူလိုကြောင်း မိန့်တော်မူကာ ကြွသွားတော်မူသည်။

နွားကျောင်းသားလည်း အရှင်မြတ်ကို ခရီးတစ်ဝက် အထိ လိုက်ပို့ပြီးလျှင် ပြန်လာခဲ့သည်။ ချေးလီမွှာသည် အရှင်မြတ် အပြီးတိုင် ကြွသွားတော်မူသည်ကို သိသောအခါ လွမ်းဆွတ်၍ နှလုံးကွဲကာ သေဆုံးသွားရှာလေသည်။ ထို့နောက် အရှင်မြတ်ကို ဖူးမြော်ရသော ကုသိုလ်ကြောင့် တာဝတိံသာ နတ်ပြည်၌ နတ်သား သွားဖြစ်လေ သည်။

ထိုနတ်သားသည် ချေးလီမွှာ ဖြစ်စဉ်က အရှင်မြတ် ဘေးရန်ကင်း အောင် သားရဲများအား ကျယ်လောင်စွာ ဟိန်းဟောင် ပေးသော ကုသိုလ်ကံ အကျိုးကြောင့် အသွန်အသံအောင်သည်။ အခြားနတ်များ နှင့် စကားပြောသောအခါ ထိုနတ်သား၏ အသံသည် နတ်ပြည် အလုံးကို လွှမ်းဖုံးသွားလေသည်။ ထို့ကြောင့်ပင် ထိုနတ်သားသည် 'ဃောသက နတ်သား' ဟူသော အမည်ကို ရရှိလေသည်။ ။



မင်္ဂလာပုံပြင် - ၃၀

# ပညာရှိ နှစ်ဦး



၃၀။ ကာလေန ဓမ္မသာကစ္ဆာ ၊
ဧတံ မင်္ဂလ'မုတ္တမံ ။
သင့်လျော်သောအခါ တရားဆွေးနွေးခြင်းသည်
မြတ်သော မင်္ဂလာ မည်၏။

# ပညာရှိနှစ်ဦး

တစ်ခါသော် အမတ်ကြီး ဘိုးရာဇာနှင့် အမတ်ကြီး သီဟပတေ့တို့သည် သစ်ကညင်ဟူသော အရပ်တွင် တွေ့ဆုံ၍ စကားပြောဆို ဆွေးနွေးကြသည်။ ဘိုးရာဇာသည် အင်းဝဘုရင် မင်းခေါင်၏ အမတ်ပညာရှိ ဖြစ်သည်။ သီဟပတေ့သည် ဟံသာဝတီဘုရင် ရာဇာဓိရာဇ်၏ အမတ်ပညာရှိ ဖြစ်သည်။

အမတ်ပညာရှိ နှစ်ပါး တွေ့ဆုံစကား ဆိုကြသဖြင့် နှစ်ဖက်ပရိသတ်တို့ သွားရောက် နားထောင်ကြသည်။

နှစ်ပါးတွေ့ကြသော် အမတ်ကြီး သီဟပတေ့သည် ဘိုးရာဇာအောက် အသက်ငယ်သဖြင့် နိမ့်သောနေရာတွင် ထိုင်သည်။ ဘိုးရာဇာကို မြင့်သောနေရာကို ပေးသည်။ ထိုအခါ ဘိုးရာဇာက ဝင့်ကြွားခြင်း မပြု။ "ရှေးအခါက ကောဝဋ်ပုဏ္ဏားနှင့် မဟောသဓာတို့ စစ်ထိုးသော အခါနှင့် အလားတူ၏"ဟုဆို၏။ မဟောသဓာသည် အသက်ငယ်သဖြင့် အနိမ့်တွင်နေခဲ့သည်။ ဘိုးရာဇာက သီဟပတေ့အား ဘုရားလောင်း မဟောသဓာနှင့် နှိုင်း၍ ဆိုသည်။ မိမိကိုယ်ကိုမူကား ကောဝဋ်ပုဏ္ဏားနှင့် နှိုင်း၍ နှိမ့်ချစွာ ဆိုလေသည်။

ထိုအခါ သီဟပတေ့သည် ဘိုးရာဇာကို လေးစား ကြည်ညိုသွားသည်။ ဘိုးရာဇာက "အမတ်ကြီး သီဟပတေ့၊ ငါတို့နှစ်ပါး ပြည်ထဲရေးကို ဆိုကြရာတွင် ပညာရှိတို့ကဲ့သို့ ဆိုမည်လော။ သို့မဟုတ် မှူးမတ်တို့ကဲ့သို့ ဆိုမည်လော"ဟု မေး၏။

သီဟပတေ့က "အဘိုးရာဇာ၊ ထိုအကြောင်းကို ရှင်းပြပါ" ဟု ဆို၏။

ဘိုးရာဇာက "ပညာရှိတို့ ဆိုခြင်းကား ဟုတ်မှန်လျှင်လည်း ဟုတ်မှန်သည်ဟု အကြည်အသာ ဆို၏။ မဟုတ်မှန်လျှင်လည်း မဟုတ်မမှန်ဟု အကြည်အသာ ဝန်ခံ၏။ မူးမတ်တို့ ဆိုခြင်းကား အလိုနှင့် ညီသော် ဝမ်းမြောက်ဝမ်းသာရှိ၏။ အလိုနှင့် မညီသော် စောင်းမာန် ခိုက်ရန် ဖြစ်၏"ဟု ဆို၏။

သီဟပတေ့က "အဘိုးရာဇာ၊ ပညာရှိတို့ဆိုခြင်းကိုသာ ဆိုချင် ပါ၏"ဟူ၍ ဆို၏။

ဤသို့ဆိုပြီးလျှင် ပညာရှိနှစ်ပါးတို့သည် ချစ်ကြည် လေးမြတ် ဖွယ်ရာ စကားတို့ကိုသာ ဆိုကြ၏။ ထို့နောက် သီဟပတေ့သည် ကွံဖြူကို လက်နှင့်ယူ၍ ကွမ်းချပ်တွင်ထည့်ကာ ဘိုးရာဇာအား ဆက် ကပ်၏။ ဘိုးရာဇာလည်း ကွံဖြူကို ယူ၍ နီတိကျမ်း အလိုအရ အဖျားမှ စ၍ အရင်းအထိ တရွေ့ရွေ့ အရသာခံကာ သုံးဆောင်၏။

ဤတွင် သီဟပတေ့က "အဘိုးရာဇာ၊ အတုမရှိသော ပညာရှိ ဖြစ်ပါလျက် အဘယ့်ကြောင့် ကွံကို အဖျားကစ၍ စားဘိသနည်း"ဟု မေး၏။

ဘိုးရာဇာက "အမတ်ကြီး သီဟပတေ့၊ ငါသည် နီတိကျမ်းကို မှီ၍ အရသာကို တရွေ့ရွေ့တိုး၍ ခံကာ စားသုံးသည်"ဟု ဆို၏။

ထိုအခါ သီဟပတေ့က "အဘိုးရာဇာ၊ ဘုရားတရားတော်တွင် 'ကွေးသောလက် မဆန့်ခင်၊ ဆန့်သောလက် မကွေးခင် ခန္ဓာ တရားသည် အနိစ္စဖြစ်သည်'ဟု ဆိုပါသည်။ အဘယ့်ကြောင့် ကွံ

ကို အဖျားကစ၍ အရသာခံကာ စားပါသနည်း။ အရသာကောင်းတည်ရာ ကြံအရင်းသို့ မရောက်မီ အနိစ္စ ဖြစ်ပါမူ အရသာကောင်းကို မမှီဝဲရ ရှိတော့မည် မဟုတ်ပါလော"ဟု ဆို၏။

ထိုအခါ ဘိုးရာဇာက စကားနိုင် မဆို၊ "အမတ်ကြီး၊ ငါသည် လူတို့သုံးစွဲရိုး နီတိကျမ်းကို လိုက်၍ စားသည်။ သင်သော်ကား ဘုရားတရားတော်ကို လိုက်၍ ဆိုသည်။ ငါ့စကားထက် သင့်စကားက သင့်လှပေသည်"ဟူ၍ ချီးကျူးပြောဆို၏။

အမတ်ကြီး သီဟပတေ့လည်း "ဪ၊ ငါကား အတုမရှိ ပညာရှိ သူတော်ကောင်းကို တွေ့ရပေသည်တကား"ဟု နှစ်လို ဝမ်းမြောက်စွာ ဆို၏။ မိမိစားသော ရွှေကွမ်းအုပ်ကို ကွမ်းနှင့်တကွ အဘိုးရာဇာကို ပေးအပ်ပူဇော်၍ ဦးခိုက်၏။

"အဘိုးရာဇာ၊ ပညာရှိအများပင် မိမိဆိုသော စကားသာ မှန်သည်ဟု ဆိုလေ့ရှိသည်။ သူ့စကားကို ပယ်လေ့ရှိသည်။ အရှုံးခံသော သူကား နည်းလှသည်။ အဘိုးရာဇာကား ပညာရှိရုံသာမက သူတော်ကောင်းလည်း ပီသလှသည်။ အဘိုးရာဇာနှင့် တူသော သူကို အကျွန်ုပ် အလွန်တွေ့ရခဲ၏"ဟု ဆို၏။

ဤသို့လျှင် ပညာရှိနှစ်ပါးသည် ပညာရှိသူတော်ကောင်းထုံးကို နှလုံးမူကာ ချစ်ကြည်စွာ ပြောဆို ဆွေးနွေးရာ ပရိသတ်တို့ ဝမ်းသာကြည်နူးမဆုံး ရှိကြလေ၏။ ။

မင်္ဂလာပုံပြင် - ၃၁

# ခြိုးခြံသူ



၃၁။ တပေါ ၈ ၊

တော် မင်္ဂလ'မုတ္တမံ။

ခြိုးခြံစွာ ကျင့်သုံးနေထိုင်ခြင်းသည်

မြတ်သော မင်္ဂလာ မည်၏။

# ခြိုးခြံသူ

ရှေးသရောအခါ ဗာရာဏသီပြည်ဝယ် ကုဋေရှစ်ဆယ် ကြွယ်ဝသော ဗြာဟ္မဏ သူဌေးလင်မယား နှစ်ယောက် ရှိ၏။ သူတို့တွင် သားတစ်ယောက်နှင့် သမီးတစ်ယောက် ရှိသည်။ သားကို 'အကိတ္တိ' ဟု အမည်ပေး၍ သမီးကို 'ယသဝတီ'ဟု အမည်ပေးသည်။

အကိတ္တိသည် အရွယ်ရောက်သောအခါ တက္ကသိုလ်ပြည်သို့ သွား၍ ပညာဆည်းပူးသည်။ ပညာများ တတ်မြောက်သောအခါ မိဘတို့ထံ ပြန်လာသည်။ နှစ်အတန်ကြာသောအခါ မိဘနှစ်ပါး ကွယ်လွန်သွားသည်။ များပြားလှသော ဥစ္စာပစ္စည်းများကို အကိတ္တိတို့ မောင်နှမ ရရှိကြသည်။ သို့ရာတွင် အကိတ္တိက ဥစ္စာတို့ကို မယူ။ ရသေ့ရဟန်းပြုမည် ဟု ဆိုလျက် နှမငယ်အား ပစ္စည်းဥစ္စာ အားလုံးကို ပေးအပ်သည်။ သို့ရာတွင် နှမငယ်ကလည်း မယူပေ။

"မောင်ကြီး၊ ကျွန်မသည် မောင်ကြီး စွန့်ပစ်သော တံတွေးကို ဦးခေါင်းဖြင့် မခံလိုပါ။ ဥစ္စာကို အလိုမရှိပါ။ မောင်ကြီးနှင့် အတူ ရသေ့ အဖြစ်ခံယူနေထိုင်လိုပါသည်"ဟူ၍ ဆို၏။

သို့ဖြင့် သူတို့ မောင်နှမသည် ရှိသမျှ ဥစ္စာတို့ကို လှူဒါန်းစွန့်ကြဲပြီးလျှင် ဗာရာဏသီပြည်မှ ထွက်ခဲ့ကြ၏။ သုံးယူဇနာ ကွာဝေးသော တောအရပ်တွင် ကျောင်းသင်္ခမ်းဆောက်၍ ရသေ့ရဟန်းပြုကာ နေထိုင်ကြ၏။

အကိတ္တိရသေ့ကို ကြည်ညိုကြသဖြင့် လူအများပင် ရသေ့ပြုလာကြ၏။ အခြံအရံများလာ၏။ လာဘ်ပူဇော်မှုလည်း များလာ၏။

ထိုအခါ အကိတ္တိရသေ့သည် မနှစ်မြို့။ နှမငယ်ကိုပင် အသိမပေး။ တစ်ကိုယ်တည်း ထွက်ခဲ့ပြီးလျှင် ဥယျာဉ်တစ်ခု၌ တစ်ပါးတည်း နေထိုင်၏။ တရားကို ကြိုးစားအားထုတ်၏။ ဈာန်ရ ရသေ့အဖြစ်သို့ ရောက်ရှိသွား၏။ ထိုအခါ လူအများ ရောက်လာကြပြီး ပူဇော်ကြပြန်၏။ လာဘ်လာဘတို့ ပေါများလာပြန်၏။ အကိတ္တိရသေ့ မနှစ်မြို့နိုင်ပြန်။ ထိုနေရာမှ ဖယ်ခွာ၍ လူသူဝေးသော ကျွန်းတစ်ကျွန်းသို့ သွားရောက် နေထိုင်၏။ ထိုကျွန်းရှိ ကံပြင်းပင်ကြီးကို အမှီပြုလျက် ကျောင်းဆောက်၍ တစ်ပါးတည်း နေထိုင်၏။

အကိတ္တိရသေ့သည် အလွန်မြိုးမြစွာ နေထိုင်၏။ ကံပြင်းပင်ကြီး အသီးသီးသောအခါ အသီးကို စား၏။ အသီးမရှိသောအခါ အ ရွက်ကိုပြုတ်၍ စား၏။ အစာကို မြိုးမြစားရုံမက အအိပ် အနေကိုလည်း မြိုးမြ၏။ တရားကိုသာ အထူးကြိုးစားအားထုတ်၏။

ထိုအခါ သိကြားမင်းသည် အကိတ္တိရသေ့ကို စုံစမ်းရန် ပုဏ္ဏား အသွင် ဖန်ဆင်း၍ လာရောက် အလှူခံ၏။ ထိုအချိန်မှာ အကိတ္တိရသေ့သည် အစာအတွက် ကံပြင်းရွက်ပြုတ် စားမည်ဟု ပြင်ဆင်နေချိန် ဖြစ်သည်။

ဤသို့လျှင် သိကြားမင်းသည် သုံးရက်တိုင်လာ၍ သုံးကြိမ် အလှူခံ၏။ အကိတ္တိကလည်း ရှေးနည်းအတိုင်းလှူ၍ အစာမစားဘဲ မြိုးမြနေထိုင်၏။ သုံးရက်မြောက်သောအခါ သိကြားမင်းသည် ကိုယ် ထင်ပြလျက် "မည်သည့်အရာကို တောင့်တ၍ ဤသို့လှူပါသနည်း"ဟု မေးမြန်း၏။

အကိတ္တိက "ငါသည် နတ်စည်းစိမ်၊ သိကြားစည်းစိမ်ကို မလို၊ ဘုရားအဖြစ်ကို လိုသဖြင့် ဤသို့ လှူ၍၊ ဤသို့ မြိုးမြစွာ နေထိုင် ကာ တရားအားထုတ်နေခြင်း ဖြစ်သည်"ဟု ပြန်ပြော၏။

ထိုစကားကို ကြားလျှင် သိကြားမင်းသည် အလွန်ကြည်ညိုလှသဖြင့် လိုရာဆုကို ပေးမည်ဟု ဆို၏။ ထိုအခါ အကိတ္တိက လက်မခံ။ "ဆုကိုလက်ခံပါက လောဘ၊ ဒေါသ စသည်တို့ ပွားတော့မည်။ သင် သိကြားမင်းကဲ့သို့သော နတ်၏အဆင်းကို မြင်နေရလျှင်လည်း ငါ့တွင် မြိုးခြံမှု အကျင့်တို့ လျော့ပါးလေတော့မည်။ ငါ့ထံသို့ သင် မလာရန်သာ ငါ တောင်းဆိုပါ၏"ဟု ဆို၏။

သိကြားမင်းလည်း "ရှင်ရသေ့၊ ကောင်းလှပါပြီ။ အရှင်ရသေ့ထံ မလာတော့ပါ"ဟု ဝန်ခံ၍ ရှိသေစွာ ရှိခိုးကန်တော့၏။ ထို့နောက် မိမိနေရာ တာဝတိံသာသို့ ပြန်သွားလေသည်။ ။



မင်္ဂလာပုံပြင် – ၃၂

# မောင်နှံ နှစ်ဖော်



၃၂။ ဗြဟ္မစရိယဉ္စ ၊

ဧတံ မင်္ဂလမုတ္တမံ ။

မြတ်သော အကျင့်ကို ကျင့်ခြင်းသည်

မြတ်သောမင်္ဂလာ မည်၏။

# မောင်နှံ့ နှစ်ဖော်

တစ်ရံရောအခါ မဂဓ တိုင်း မဟာတိတ္ထာ ပုဏ္ဏားရွာ၌ ကဿပအနွယ်ဝင် သူဌေးပုဏ္ဏား လင်မယား ရှိ၏။ သူတို့တွင် ပိပ္ပလိ အမည်ရှိ သားတစ်ယောက် ထွန်းကားသည်။ ထိုသားသည် ရုပ်ရည် ချောမောလှပတင့်တယ်သည်။ အသက်-၂၀အရွယ် ရောက်သောအခါ မိဘတို့က သားကို အိမ်ထောင် ချထားပေးမည် ပြု၏။

ထိုအခါ ပိပ္ပလိလုလင်က ငြင်းဆန်သည်။ "ကျွန်ုပ်သည် အိမ်ရာ ထောင်မှု မပြုလိုပါ။ မိဘတို့ အသက်ရှင်သရွေ့ လုပ်ကျွေးပြုစုပါမည်။ မိဘတို့ လွန်သောအခါ ရသေ့ရဟန်း ပြုလိုပါသည်" ဟူ၍ ဆို၏။

မိဘတို့ကလည်း သား၏ဆန္ဒကို မနှစ်သက်။ အိမ်ထောင်ပြုရန် သာ အကြိမ်ကြိမ် တိုက်တွန်း၏။ ထိုအခါ ပိပ္ပလိလုလင်သည် မိဘ တို့ ထပ်မံတိုက်တွန်းခြင်း မပြုနိုင်ရန် ကြံစည်၏။ သူသည် ရွှေစင် ဖြင့် အလွန်လှပ ချောမွေ့သော မိန်းမရုပ်ကို သွန်းလုပ်၏။ အဝတ် တန်ဆာတို့ကို ဆင်ယင်ပေး၏။

ထို့နောက် ထိုရုပ်တုကို မိဘတို့အား ပြ၏။ "မိခင် ဖခင်တို့၊ ဤရွှေရုပ်၏ အသွင်အပြင်နှင့် တူသော မိန်းမကို ရလျှင် သားမောင် အိမ်ထောင်ပြုပါတော့မည်" ဟု ဆို၏။

မိဘတို့ကလည်း "ဤရွှေရုပ်ကဲ့သို့ လှသော မိန်းမမျိုးကို မရှာဲ မရှိနိုင်။ ရှာလျှင် တွေ့နိုင်သည်" ဟု ဆိုကာ ပုဏ္ဏားရှစ်ယောက်ကို ရှာဖွေစေသည်။ ပုဏ္ဏားတို့လည်း ရွှေရုပ်ကို ရထားထက်၌ တင်၍

လက်ဆောင်ပဏ္ဏာများ ဆောင်ယူကာ အမြို့မြို့၊ အပြည်ပြည်သို့ လှည့်လည် ရှာဖွေကြသည်။

မဒ္ဒ တိုင်း သာဂလမြို့သို့ ရောက်သောအခါ ရွှေရုပ်နှင့် တူသော မိန်းမပျိုကိုအံ့ဩဖွယ်တွေ့ရှိကြသည်။ထိုသမီးပျိုသည် ကောသိယအနွယ်ဖြစ်သော သူဌေးပုဏ္ဏားတစ်၏သမီး ဘဒ္ဒါကာပိလာနီ ဖြစ်သည်။ ရွှေရုပ်နှင့် တူရုံမျှ မက ရွှေရုပ်ထက်ပင် ကဲလွန်၍ လှပတင့်တယ်သည်။ အသားအရေ စိုပြည်ဝင်းဝါသည်။ မိန်းမမြတ် အသွင်ကို ဆောင်သည်။

ပုဏ္ဏားတို့လည်း မိန်းမပျို၏ မိဘတို့ထံ လက်ဆောင်ပဏ္ဏာနှင့် တကွ ရွှေရုပ်ကို အပ်နှင်းသည်။ အကြောင်းစုံ ပြောပြ၍ သတို့သမီးကို တောင်းခံသည်။ မိဘတို့ကလည်း ဝမ်းမြောက်ဝမ်းသာ သဘောတူကြသည်။ ထိုအကြောင်းကို ပိပ္ပလိလုလင် ကြားသိရသောအခါ ရွှေပေဖြင့် သဝဏ်လွှာရေး၍ ဘဒ္ဒါကာပိလာနီထံ ပို့၏၊

သဝဏ်လွှာ၌ "နှမ ကာပိလာနီ၊ သင်နှင့် မျိုးနွယ်တူ၊ ဂုဏ်ရည်တူ အခြားယောကျ်ားတစ်ဦးဦးနှင့်သာ ထိမ်းမြားပါ။ ငါသည် အိမ်ရာထောင်ခြင်းကို အလိုမရှိ။ မိဘနှစ်ပါးတို့ အနိုင်အထက် ထိမ်းမြားပေးစားသော်လည်း ငါထွက်ခွာ၍ ရဟန်းပြုအံ့။ ထိုအခါ အသင်စိတ်နှလုံး မသာမယာ ရှိတော့မည်"ဟူ၍ ပါရှိ၏။

အလားတူပင်ဘဒ္ဒါကာပိလာနီကလည်း လက်ထပ်ထိမ်းမြားခြင်း မပြုလိုကြောင်း ပိပ္ပလိထံ စာသဝဏ်လွှာ ပေးပို့၏။ စာသဝဏ်ကို ဆောင်ယူသူလုလင်တို့သည် လမ်းတွင်ဆုံမိကြ၏။ နှစ်ဦးသဘောတူ စာသဝဏ်များကို ဖွင့်ဖတ်ကြ၏။ သူတို့သည် မောင်နှံနှစ်ဦး ဖူးစာဆုံစေလိုသဖြင့် 'ချစ်ခင်လိုကြောင်း' ဟု ပြင်၍ ရေးကာ ပေးပို့ကြ၏။ ဤသို့ဖြင့် မောင်နှံနှစ်ဦး အလိုမတူဘဲ လက်ထပ်ထိမ်းမြား ဖြစ်သွား၏။

ထုံးစံအတိုင်းပင် ဘဒ္ဒါကာပိလာနီသည် ပိပ္ပလိလုလင်ထံ လိုက်၍ နေရ၏။

သူတို့နှစ်ဦးသည် အကြင်လင်မယား ဘဝသို့ ရောက်ရသော်လည်း လင်မယားကဲ့သို့ မနေထိုင်။ ဖြူစင် သန့်ရှင်းစွာဖြင့် မြတ်သောအကျင့်ကို ကျင့်၍ မောင်နှမရင်းချာ ကဲ့သို့သာ နေထိုင်ကြ၏။ အိပ်စက်ရာတွင်လည်း ပန်းကုံးခြား၍ အိပ်ကြ၏။ ကိုယ်လက်ချင်းပင် အချင်းချင်း မထိကြပေ။

ဤသို့ နေလာကြရာမှ ကာလကြာသောအခါ မိဘတို့ ကွယ်လွန်သွားကြ၏။ ဤတွင် မိဘများထံမှ အမွေအနှစ် မြောက်မြားစွာ ရရှိကြ၏။ သို့ရာတွင် နှစ်ဦးစလုံးပင် ဥစ္စာတို့ကို အလိုမရှိကြ။ သဘောတူ တိုင်ပင်၍ ဥစ္စာအားလုံးကို လှူဒါန်း၊ စွန့်ကြဲ၊ ပေးကမ်းလိုက်ကြသည်။ ထို့နောက် ဖန်ရည်စွန်းသော အဝတ်ကိုယ်စီဝတ်၍ ဆံပင်ကို ဖြတ်တောက်ကြကာ ရွာမှ ထွက်လာခဲ့ကြသည်။ လမ်းခွဲတစ်ခုသို့ ရောက်သောအခါ "ဤနေရာမှ ခွဲခွာကြမှ သင့်မည်"ဟူ၍ တိုင်ပင်ကာ တစ်ယောက်တစ်လမ်း ခွဲခွာသွားကြလေသည်။ နောက်ဆုံးတွင် ပိပ္ပလိလုလင်သည် ဘုရားရှင်ထံတော်မှောက်သို့ ရောက်၍ ရဟန်းပြုသည်။ ရဟန်းတရားကို ကြိုးစားအားထုတ်လေရာ ခုနစ်ရက်လွန်၍ ရှစ်ရက်မြောက်သောနေ့တွင် ရဟန္တာ ဖြစ်သွားလေသည်။ 'အရှင်မဟာကဿပ' မထေရ်ဟူသော ဘွဲ့တော်ဖြင့် ထင်ရှားလာသည်။

ဘဒ္ဒါကာပိလာနီသည်လည်း နောက်ဆုံးတွင် ဘိက္ခုနီမ ပြုခွင့်ရကာ တရားကို ကြိုးစားအားထုတ်ပြီး ရဟန္တာမ ဖြစ်သွားလေသည်။ 'ဘဒ္ဒါကာပိလာနီထေရီ' ဟူသော ဘွဲ့တော်ဖြင့် ထင်ရှားလာ လေသည်။ ။

မင်္ဂလာပုံပြင် - ၃၃

# ကိသာ ဂေါတမီ



၃၃။ အရိယ သစ္စာန ဒဿနံ ၊
စေတံ မင်္ဂလ'မုတ္တမံ ။
မြတ်စွာဘုရား ဟောကြားတော်မူသော
သစ္စာလေးပါး တရားတို့ကို သိမြင်ခြင်းသည်
မြတ်သော မင်္ဂလာ မည်၏။

# ကိသာဂေါတမီ

ရှေးသရောအခါ သာဝတ္ထိပြည်တွင် သူဌေးသမီး တစ်ဦး ရှိသည်။ အရွယ်ရောက်သောအခါ မိဘများ ဆင်းရဲသွားသဖြင့် နွမ်းပါးသော ဘဝသို့ ရောက်ရှိသွားရရှာသည်။ သူ့အမည်မှာ 'ကိသာဂေါတမီ' ဟု ခေါ်သည်။

ထိုအချိန်တွင် သာဝတ္ထိပြည်ရှိ သူဌေးကြီး တစ်ဦးသည်လည်း သူ၏ ပိုင်ဆိုင်သော ရွှေများအားလုံး မီးသွေးဖြစ်ကာ ဆင်းရဲသွားရှာသည်။ ထိုအခါ မိတ်ဆွေတစ်ဦးက "စိတ်မပျက်ပါနှင့်၊ ဘုန်းကံရှိသူနှင့်တွေ့လျှင် သင်၏ မီးသွေးများကို လက်နှင့် ထိရုံဖြင့် ရွှေများ ပြန်ဖြစ်သွားနိုင်ပါသည်" ဟု အားပေးစကား ပြောဆို၏။ သူဌေးကြီးလည်း ထိုသူ၏စကားကို ယုံကြည်ကာ မီးသွေးများကို ဈေးတွင် ဆိုင်ခင်း၍ ရောင်းချ၏။

တစ်နေ့သ၌ ကိသာဂေါတမီသည် ဈေးသို့ သွားသည်။ သူဌေးဟောင်းဆိုင်မှ မီးသွေးများကို ကြည့်ကာ–

"ဤရွှေများ ကုန်အောင် ဘယ်သူ ဝယ်နိုင်ပါမည်နည်း" ဟု ဆိုင်ရှင် သူဌေးဟောင်းအား မေးမြန်း၏။

ထိုအခါ သူဌေးဟောင်းသည် 'ဘုန်းကံရှိသူကို တွေ့ရပြီ' ဟု ဝမ်းမြောက်ဝမ်းသာ ဖြစ်သွားသည်။ ကိသာဂေါတမီ၏ နေရပ်ကို မေးမြန်း၍ မိမိသားကြီးနှင့် ထိမ်းမြားရန် စီစဉ်သည်။ သို့ဖြင့် ကိသာဂေါတမီသည် သူဌေးသားနှင့် လက်ထပ်ရလေသည်။ ကိသာဂေါတမီ၏ လက်နှင့်ထိသော မီးသွေးများ အားလုံးသည်လည်း ရွှေစင်အတိသို့ ပြန်၍ ရောက်သွားလေသည်။

ကိသာဂေါတမီသည် ယောက္ခမ သူဌေးကြီးအိမ်မှာပင် နေထိုင်သည်။ ယောက္ခမ သူဌေးကတော်ကြီးမှာ စိတ်ထားမကောင်း၊ ရက်စက်ကြမ်းကြုတ်သူ ဖြစ်သည်။ ထိုအခါ ကိသာဂေါတမီမှာ စိတ်မချမ်းမသာ ဖြစ်ရလေသည်။ ဤသို့ နေလာရာမှ ကာလအတန်ကြာသော် သားတစ်ယောက် ဖွားမြင်သည်။ ကံဆိုးရှာသဖြင့် သားကလေး သုံးလေးနှစ် အရွယ်တွင် ကွယ်လွန်သွားသည်။

ကိသာဂေါတမီမှာ ရူးမတတ် သောကရောက်ရ ရှာသည်။ သားသေကို ရင်ခွင်၌ ပိုက်လျက် "အသက်ရှင်အောင် ကုစားပေးပါ"ဟူ၍ လူတကာကို လိုက်လံတောင်းပန်၏။ တွေ့သမျှ လူများကို ငိုယိုပန်ကြား၏။ လူအများကလည်း "ကိသာဂေါတမီ၊ သင်ကား ရူးလေပြီ"ဟု ဆိုကြ၏။ ကြင်နာသော ပညာရှိ တစ်ယောက်ကမူ "ချစ်သမီး၊ ငါကား သင့်သား ပြန်ရှင်လာအောင် ကုသနိုင်သော ဆေးကို မသိပါ။ သို့ရာတွင် ဂေါတမ ဘုရားရှင်ကား ဤဆေးကို သိတော်မူပါသည်။ ဘုရားရှင်ထံ သွားပါလော့"ဟု လမ်းညွှန်လိုက်လေသည်။

ကိသာဂေါတမီသည် အလျင်အမြန် ဘုရားရှင်ထံ သွားရောက်သည်။ သား အသက် ပြန်ရှင်နိုင်မည့် ဆေးကို တောင်းသည်။ ဘုရားရှင်က "ကိသာဂေါတမီ၊ သင့်သားအတွက် ဆေးဖော်စပ်ရန် လူမသေဖူးသော အိမ်မှ မုန်ညင်းစေ့ တစ်ဆုပ်မျှ တောင်းခဲ့လော့"ဟု ဉာဏ်တော်ဖြင့် ဆင်ခြင်၍ မိန့်တော်မူလိုက်သည်။

ကိသာဂေါတမီသည် လူမသေဖူးသော အိမ်ကို သာဝတ္ထိမြို့တော် အနှံ့ လိုက်ရှာသည်။ တစ်အိမ်ကား အဖေသေဖူးသည်။ တစ်အိမ်ကား အမိသေဖူးသည်။ တစ်အိမ်ကား သားသေဖူးသည်။ တစ်အိမ်ကား သမီးသေဖူးသည်။ ဤသို့လျှင် ဘကြီး၊ ဦးလေး၊ မိကြီး၊ ထွေးလေး

စသဖြင့် လူသေဖူးသော အိမ်ချည်းသာ ဖြစ်ကြသည်။ လူမသေဖူးသော အိမ်ဟူ၍ မရှိ။ ရှာဖွေ၍ မရ။

ဤတွင်မှ ကိသာဂေါတမီသည် 'သေခြင်းတရားသည် လူတိုင်းနှင့် မကင်းနိုင်ကြောင်း' သဘောပေါက်သွားသည်။ သားသေကို တောတွင် စွန့်ပစ်ခဲ့၍ ဘုရားရှင်ထံ ပြန်လာသည်။ ဤတွင် ဘုရားရှင်က "ကြီးစွာသော ရေအလျဉ်သည် အိပ်ပျော်နေသော ရွာသူ၊ ရွာသား အပေါင်းကို တိုက်ယူ၍ သွားသကဲ့သို့၊ ထို့အတူ သေမင်းသည်လည်း လွန်စွာမေ့လျော့၍ ကပ်ငြိစိတ်ရှိသော သတ္တဝါတို့ကို ခေါ်ဆောင်၍ သွားလေ၏"ဟူသော တရားဒေသနာကို ဟောကြားတော်မူ၏။ ထိုတရားအဆုံး၌ ကိသာဂေါတမီသည် စိတ်အေးငြိမ်းသွားသည်။ သောတာပန်ဖြစ်၍ ရဟန်းမ ပြုလေသည်။

တစ်နေ့သ၌ ကိသာဂေါတမီသည် ဆီမီးတောက်ကို ကြည့်ရှုရင်း ကုန်ခန်းပျက်စီးတတ်သော သဘောကို နှလုံးသွင်းလျက် ဝိပဿနာ တရား ပွားများရာမှ သစ္စာတရားကို သိမြင်ကာ ရဟန္တာမ ဖြစ်သွားလေသည်။ ထိုသို့ ရဟန္တာမ ဖြစ်ရာတွင် ကောင်းမွန်သော သင်္ကန်းကို မတပ်မက်၊ ပံ့သကူသင်္ကန်းကိုသာ ခြုံး၍ ဝတ်ဆင်သည်။ ထို့ကြောင့် မြတ်စွာဘုရားက ကိသာဂေါတမီအား "ခေါင်းပါးသော သင်္ကန်းကို ဆောင်ကုန်သော ရဟန်းမတို့တွင် ကိသာဂေါတမီသည် အမြတ်ဆုံးဖြစ်သည်"ဟူ၍ ချီးကျူးတော်မူကာ 'လူခ စီဝရ ဓာရဏ' ဧတဒဂ် ဘွဲ့ထူးကို နှင်းအပ်ခဲ့ပေသည်။ ။

## မင်္ဂလာပုံပြင် - ၃၄

# ပဋာစာရီ



**၃၄။ နိဗ္ဗာန သစ္ဆိကိရိယာ စ ၊**

**ဧတံ မင်္ဂလ'မုတ္တမံ ။**

**နိဗ္ဗာန်ကို မျက်မှောက်ပြုရခြင်းသည်**

**မြတ်သော မင်္ဂလာ မည်၏။**

# ပဋာစာရီ

တစ်ရံရောအခါ သာဝတ္ထိမြို့တွင် ကုဋေ၄၀လေးဆယ် ကြွယ်ဝသော သူဌေးကြီးတစ်ဦး ရှိသည်။ သူ့တွင် ပဋာစာရီအမည်ရှိ သမီးပျို တစ်ယောက် ရှိသည်။

ပဋာစာရီသည် ၁၆–နှစ်သမီး အရွယ်သို့ ရောက်သောအခါ မိမိ အိမ်တွင် စေခိုင်းသော ကျွန်လုလင်ပျို တစ်ဦးနှင့် ချစ်ကြိုက်မိသည်။ မိဘများကလည်း အမျိုးဇာတ်ချင်း၊ အဆင့်အတန်းချင်း တူမျှသော သတို့သား တစ်ယောက်နှင့် ထိမ်းမြားပေးရန် စီစဉ်ထား၏။ မင်္ဂလာ ဆောင်မည့် ရက်ကို သတ်မှတ်ထား၏။

ပဋာစာရီသည် မိဘတို့ ထိမ်းမြားပေးမည့် သတို့သားကို အလိုမရှိ။ မင်္ဂလာဆောင်ခါနီးတွင် ကျွန်လုလင်ပျိုနှင့်အတူ နေအိမ်မှ ထွက်ပြေး သွားသည်။ ရွာတစ်ရွာတွင် နေကာ သူတို့နှစ်ဦး ပေါင်းသင်း နေ ထိုင်ကြသည်။ ဝမ်းရေးအတွက် ယောက်ျား ဖြစ်သူသည် လယ်ထွန်ခြင်း၊ ဟင်းသီးဟင်းရွက်ရောင်းခြင်း စသည့် အလုပ်တို့ကို ကြိုးစား လုပ်ကိုင် သည်။ သူဌေးသမီးဖြစ်ခဲ့သော ပဋာစာရီကလည်း ရေခပ်ခြင်း၊ မောင်း ထောင်းခြင်း၊ ထမင်းချက်ခြင်း စသည်တို့ကို ကျိုးနွံစွာ လုပ်ကိုင်သည်။ ဤသို့ နေထိုင်လာကြရာမှ ပဋာစာရီတွင် ကိုယ်ဝန် တည်လာလေ သည်။

ကိုယ်ဝန် ရင့်လာသောအခါ ပဋာစာရီသည် မိဘထံသို့ ပြန်၍ မွေးဖွားရန် ယောက်ျားအား တောင်းပန်သည်။ ယောက်ျားက ပြန် သွားလျှင် ညှဉ်းပန်းနှိပ်စက် ခံရမည်စိုး၍ လိုက်မပို့ရဲပေ။ ပဋာစာရီ

ကလည်း လိုက်ပို့ရန်သာ တောင်းပန်သည်။ ယောကျ်ားက လိုက်မပို့ဝံ့သဖြင့် လိုက်လျောခြင်း မပြု။ အကြိမ်ကြိမ် ပြော၍ မရသောအခါ ပဋာစာရီသည် ယောကျ်ား မရှိခိုက်တွင် တိတ်တဆိတ် ထွက်သွား၏။ ယောကျ်ား ပြန်ရောက်လာသောအခါ ပဋာစာရီ၏ အကြောင်းကို အိမ်နီးချင်းများထံမှ သိရသည်။ ချက်ချင်းပင် ပဋာစာရီနောက်သို့ လိုက်သည်။ တောလမ်းတစ်နေရာတွင်မှ တွေ့ဆုံကြသည်။ ယောကျ်ားက ပြန်ခေါ်သည်။ မရသဖြင့် မောင်နှံနှစ်ဦး ဆက်လက် သွားကြသည်။ မိဘများအိမ်သို့ မရောက်မီ တောထဲမှာပင် သားယောကျ်ား ဖွားမြင်သည်။ ဤတွင် ပဋာစာရီသည် မိဘများအိမ်သို့ ဆက်မသွားတော့။ ယောကျ်ားနှင့်အတူ ရွာသို့ ပြန်သွားလေသည်။

ဤသို့ နေလာရာမှ ဒုတိယကလေး ကိုယ်ဝန် တည်လာပြန်သည်။ မီးဖွားခါနီးသောအခါ ပဋာစာရီသည် ပထမအကြိမ်ကဲ့သို့ပင် မိဘအိမ်ပြန်၍ မီးဖွားမည် ပြုပြန်သည်။ ယောကျ်ားကလည်း တားမြစ်သည်။ ဤတွင် ပထမအကြိမ်နည်းတူ မိဘအိမ်သို့ တိတ်တဆိတ် ထွက်ခွာသွားသည်။ ယောကျ်ား သိသောအခါ လိုက်၍ခေါ်ပြန်သည်။ တောထဲ၌ တွေ့ဆုံမိကြသည်။ သို့ရာတွင် ရွာသို့လည်း မပြန်နိုင်။ ရှေ့သို့လည်း ခရီးမဆက်နိုင်၊ တောထဲမှာပင် မီးဖွားမည့်ဆဲဆဲ ဖြစ်လာသည်။ ထိုအချိန်၌ မိုးကလည်းရွာ၊ လေပြင်းကလည်း တိုက်နေသည်။ ယောကျ်ားသည် မိုးလုံသောနေရာတွင် ခိုလှုံရန်အတွက် ပဲခွပ်ဖြင့် ချုံများကို ခုတ်ထွင်ရှာဖွေသည်။ ထိုစဉ် တောင်ပို့တစ်ခုမှ မြွေတစ်ကောင်က ကိုက်လိုက်သည်။ အဆိပ်ပြင်းလှသည်။ ထိုနေရာမှာပင် ယောကျ်ားခမျာ လဲကျ သေဆုံးသွားရှာသည်။

ပဋာစာရီသည် ဝေဒနာကို ခံစားရင်း သားကြီးနှင့်အတူ ယောကျ်ားကို စောင့်မျှော်နေရာမှ သားငယ်ကို ဖွားမြင်သည်။ ကလေးနှစ်ယောက်

ဖြစ်သော သားကြီးနှင့် သားငယ်တို့သည် မိုးဒဏ်၊ လေဒဏ်ကို ခံကြရသဖြင့် ထိတ်လန့်စွာ ငိုကြွေးကြသည်။ ပဋာစာရီသည် ကလေးနှစ်ယောက်ကို ရင်ခွင်အောက်မှာ ထားလျက် တစ်ညလုံး လေးဘက်ထောက်၍ နေခဲ့ရရှာသည်။

နံနက်လင်းသော် သူတို့သားအမိသည် ခြေရာခံ၍ ယောကျာ်းကို လိုက်ရှာကြသည်။ မကြာမီပင် တစ်နေရာ၌ လင်ယောကျာ်း သေဆုံးနေသည်ကို တွေ့ရသည်။ ပဋာစာရီသည် စိတ်ထိခိုက်မဆုံး ဖြစ်ရှာသည်။ သို့သော် မတတ်နိုင်၊ အားတင်းလိုက်သည်။ သားငယ်ကို ပိုက်လျက် သားကြီးကို လက်တွဲကာ ထိုနေရာမှ တရွေ့ရွေ့ ထွက်ခွာလာခဲ့သည်။

အတန်ကြာသော် အစိရဝတီ မြစ်ကမ်းပါးသို့ ရောက်လာကြသည်။ ညက ရွာထားသောမိုးကြောင့် မြစ်ရေမှာ ရင်စို့လောက် ရှိနေသည်။ တသွင်သွင် စီးဆင်းနေသည်။ ပဋာစာရီသည် သားနှစ်ယောက်နှင့် အတူ မြစ်ကိုကူးရန် မလွယ်သဖြင့် သားကြီးကို သည်မှာဘက်ကမ်း၌ ထားခဲ့သည်။ သားငယ်ကို ပွေ့ချီကာ ဟိုမှာဘက်ကမ်းသို့ ကူးဖြတ်သည်။ ရောက်သော် ဟိုမှာဘက်ကမ်း တစ်နေရာ၌ သားငယ်ကို သိပ်ထားပြီးလျှင် သားကြီးကို ခေါ်ရန် ပြန်လာသည်။ ပဋာစာရီ မြစ်လယ်အရောက်တွင် စွန်ရဲကြီးတစ်ကောင် ထိုးဆင်းလာသည်။ ဖွားသစ်စဖြစ်၍ နီရဲနေသော သားငယ်ကို သားတစ်ထင်မှတ်ကာ သုတ်ချီသွားသည်။ ပဋာစာရီသည် စွန်ကြီးလန့်ပြေး၍ သားငယ်ကို ချထားစေရန် လက်နှစ်ဖက်ကို မြှောက်၍ ဟစ်အော် ခြောက်လှန့်သည်။ စွန်ကြီးကား မမှု၊ သားငယ်ကို သုတ်ချီ သွားလေပြီ။ သို့ရာတွင် တစ်ဖက်ကမ်းရှိ သားကြီးက မိမိကို မိခင် လှမ်းခေါ်သည် ဟု ထင်မှတ်သွားသည်။ ရေထဲသို့ ဆင်းလာသည်။ ရေနစ်သေဆုံး သွားရှာတော့သည်။

ပဋာစာရီမှာ သောကမီး တောက်ကာ အရူးပမာ ဖြစ်သွားသည်။ လင်ယောက်ျားနှင့် သားများသေဆုံးပုံကို ပြောဆို ဟစ်အော် ငိုကြွေးရင်း မိဘများရှိရာ သာဝတ္ထိမြို့သို့ လာခဲ့သည်။ လမ်းတွင် ခရီးသွား ယောက်ျား တစ်ယောက်နှင့် တွေ့ဆုံသည်။ မိဘများအကြောင်း မေးကြည့်သည်။

ထိုယောက်ျားက "နှမငယ်၊ ညက မိုးကြီးလေကြီး ကျရာတွင် တိုက်ပြိုကျသဖြင့် သင့်မိဘနှစ်ပါးနှင့် တကွ သင့်မောင်ပါ သေဆုံးသွားပြီ၊ သူတို့သုံးယောက်ကို တပေါင်းတည်း မီးသင်္ဂြိုဟ်သဖြင့် မီးခိုးတလူလူ တက်နေသည်ကို ဤနေရာမှပင် မြင်နိုင်ပါသည်"ဟူ၍ ပြောပြ၏။

ပဋာစာရီမှာ စိတ်မထိန်းနိုင်တော့။ သတိလက်လွတ် ဖြစ်သွားသည်။ ကိုယ်တွင် အဝတ်အစား မရှိ၊ ငိုကြွေးလျက် အရပ်တကာ လှည့်လည်သွားသည်။ အချို့က "အရူးမ"ဟု ဆိုကာ ခဲနှင့် ပစ်ပေါက်ကြသည်။

နောက်ဆုံးတွင် ပဋာစာရီသည် ဗုဒ္ဓဘုရားရှင်၏ ဇေတဝန်ကျောင်း ဝင်းထဲသို့ ရောက်သွားသည်။ ထိုအချိန်တွင် ဗုဒ္ဓဘုရားရှင်သည် ပရိသတ်တို့ကို တရားဟောလျက် ရှိသည်။ ပရိသတ်များက ပဋာစာရီကို နှင်ထုတ်မည် ပြုကြသည်။ ဘုရားရှင်က တားမြစ်တော်မူကာ "ချစ်သမီး ပဋာစာရီ၊ သတိထားလော့"ဟု မိန့်တော်မူသည်။ ထိုခဏမှာပင် ပဋာစာရီသည် သတိဝင်လာသည်။ မိမိကိုယ်၌ အဝတ်အစား မရှိသည်ကို ရှက်ကြောက်ကာ ကျုံ့ကျုံ့ ထိုင်ချလိုက်သည်။ တရားနာသူ တစ်ဦးက ကြင်နာစွာဖြင့် အပေါ်ရုံပုဆိုးကို ပစ်ပေးလိုက်သည်။ ပဋာစာရီသည် ထိုပုဆိုးဖြင့် မိမိကိုယ်ကို လုံခြုံအောင် ဝတ်ရုံသည်။ ထို့နောက် ဘုရားရှင်၏ ခြေတော်ကို ဦးခိုက်လျက် "အရှင်ဘုရား၊ တပည့်တော်မ၏ ဆောက်တည်ရာ ဖြစ်တော်မူပါဘုရား"ဟု လျှောက်ထား၏။

ဘုရားရှင်လည်း ပဋာစာရီအား အပူငြိမ်းအောင် တရားဟောပြောဆုံးမသည်။ တရားအဆုံး၌ ပဋာစာရီသည် သောကများ ကင်းဝေး ကာ သောတာပန် ဖြစ်သွားလေသည်။

ပဋာစာရီသည် သောတာပန်ဖြစ်ပြီးနောက် ဘိက္ခုနီများထံ သွား၍ ရဟန်းမ ပြုသည်။ ဗုဒ္ဓဘုရားရှင်၏ အဆုံးအမအတိုင်း တရားကို ကြိုးစားအားထုတ်ရာ သောကပရိဒေဝမီးတို့ ကင်းငြိမ်းရာ နိဗ္ဗာန်ချမ်းသာမြတ်ကို မျက်မှောက် ပြု၍ ရဟန္တာမ ဖြစ်သွားလေသည်။

အရှင်မ ပဋာစာရီသည် ဘုရားရှင် ပညတ်တော်မူသည့် ဝိနည်းသိက္ခာပုဒ်များကို ကျင့်ဆောင်ရာတွင် အထူးချွန်ဆုံး ဖြစ်သည်။ ထို့ကြောင့် ဝိနည်းဆောင် ဘိက္ခုနီရဟန်းမတို့တွင် အမြင့်မြတ်ဆုံးသော ဧတဒဂ်ဘွဲ့ထူးကို ရရှိလေသည်။ ။

# ထူးခြားသော မင်းသမီး



၃၅။ ဖုဋ္ဌဿ လောကဓမ္မေဟိ စိတ္တံ ယဿ န ကမ္ပတိ ၊
တေံ မင်္ဂလ’မုတ္တမံ။
လောကဓံတရား ၈-ပါးကို ကြုံတွေ့သောအခါ
မတုန်လှုပ်ခြင်းသည်
မြတ်သော မင်္ဂလာ မည်၏။

# ထူးခြားသော မင်းသမီး

လွန်လေပြီးသောအခါ ဗာရာဏသီပြည်ကို အုပ်စိုးသော ဗာရာဏသီမင်း၀ယ် သားတော်တစ်ပါး ရှိသည်။ 'ဗြဟ္မဒတ်'ဟု အမည်တွင်သည်။

ဗြဟ္မဒတ်မင်းသားသည် အခြံအရံ ပေါများလှသဖြင့် မင်းကြီးသည် မယုံသင်္ကာ ဖြစ်လာသည်။ မိမိ၏ နန်းကို လုယူလိမ့်မည်ဟူ၍ စိုးရိမ်လာသည်။ သို့ဖြင့် မင်းသားကို တိုင်းနိုင်ငံမှ နှင်ထုတ်လိုက်လေသည်။

မင်းသားသည် ဟိမဝန္တာတောသို့ သွားရောက်နေထိုင်မည် ပြုသည်။ ထိုမင်းသားတွင် အသိတာဘူအမည်ရှိ ကြင်ရာတော် မင်းသမီး ရှိသည်။ အသိတာဘူသည် ရုပ်ရည် လှပတင့်တယ်ရုံမက စိတ်ထား ကောင်းမွန်သည်။ လာဘ်ရခြင်း၊ မရခြင်း၊ အခြွေအရံ ရှိခြင်း၊ မရှိခြင်း၊ ချီးမွမ်းခြင်း၊ ကဲ့ရဲ့ခြင်း၊ချမ်းသာခြင်း၊ ဆင်းရဲခြင်း တည်းဟူသော လောကဓံတရား ၈-ပါးကို ခံနိုင်စွမ်းရှိသည်။ ထို့ကြောင့် ပြည်မှ ထွက်ခွာရသည်ကို ဝမ်းမနည်း၊ မညည်းညူ၊ သစ္စာရှိစွာဖြင့် မင်းသားနှင့် အတူ လိုက်ပါနေထိုင်သည်။

သူတို့ မောင်နှံသည် ဟိမဝန္တာတောရှိ သင့်တင့်လျောက်ပတ်သော အရပ်ဒေသ၌ သစ်ရွက်မိုး တဲကလေးထိုးကာ နေထိုင်ကြသည်။ မနီးမဝေး အရပ်တွင် ရသေ့ကြီး တစ်ပါးလည်း ရှိသည်။ ရသေ့ကြီးသည် တရားကို ပြင်းစွာအားထုတ် နေထိုင်သည်။ မင်းသားတို့ ဇနီးမောင်နှံ

# ထူးခြားသော မင်းသမီး

လွန်လေပြီးသောအခါ ဗာရာဏသီပြည်ကို အုပ်စိုးသော ဗာရာဏသီမင်း၀ယ် သားတော်တစ်ပါး ရှိသည်။ 'ဗြဟ္မဒတ်'ဟု အမည်တွင်သည်။

ဗြဟ္မဒတ်မင်းသားသည် အခြံအရံ ပေါများလှသဖြင့် မင်းကြီးသည် မယုံသင်္ကာ ဖြစ်လာသည်။ မိမိ၏ နန်းကို လုယူလိမ့်မည်ဟူ၍ စိုးရိမ်လာသည်။ သို့ဖြင့် မင်းသားကို တိုင်းနိုင်ငံမှ နှင်ထုတ်လိုက်လေသည်။

မင်းသားသည် ဟိမ၀န္တာတောသို့ သွားရောက်နေထိုင်မည် ပြုသည်။ ထိုမင်းသားတွင် အသိတာဘူအမည်ရှိ ကြင်ရာတော် မင်းသမီး ရှိသည်။ အသိတာဘူသည် ရုပ်ရည် လှပတင့်တယ်ရုံမက စိတ်ထား ကောင်းမွန်သည်။ လာဘ်ရခြင်း၊ မရခြင်း၊ အခြွေအရံ ရှိခြင်း၊ မရှိခြင်း၊ ချီးမွမ်းခြင်း၊ ကဲ့ရဲ့ခြင်း၊ချမ်းသာခြင်း၊ ဆင်းရဲခြင်း တည်းဟူသော လောကဓံတရား ၈-ပါးကို ခံနိုင်စွမ်းရှိသည်။ ထို့ကြောင့် ပြည်မှ ထွက်ခွာရသည်ကို ၀မ်းမနည်း၊ မညည်းညူ၊ သစ္စာရှိစွာဖြင့် မင်းသားနှင့် အတူ လိုက်ပါနေထိုင်သည်။

သူတို့ မောင်နှံသည် ဟိမ၀န္တာတောရှိ သင့်တင့်လျောက်ပတ်သော အရပ်ဒေသ၌ သစ်ရွက်မိုး တဲကလေးထိုးကာ နေထိုင်ကြသည်။ မနီးမဝေး အရပ်တွင် ရသေ့ကြီး တစ်ပါးလည်း ရှိသည်။ ရသေ့ကြီးသည် တရားကို ပြင်းစွာအားထုတ် နေထိုင်သည်။ မင်းသားတို့ ဇနီးမောင်နှံ

သည် တောတွင်းရှိ သစ်သီးများနှင့် အမဲသားငါးတို့ကို ရှာဖွေ စားသောက် နေထိုင်ကြသည်။

တစ်နေ့သ၌ မင်းသားသည် တောတွင်းတစ်နေရာ၌ ကိန္နရီမတစ်ဦးကို တွေ့သည်။ တပ်မက်သွားသည်။ ကိန္နရီမကို သိမ်းပိုက်၍ မယားပြုရန် ကိန္နရီမနောက်သို့ ခြေရာခံ၍ လိုက်သည်။ အသိတာဘူ မင်းသမီးကို ထားခဲ့သည်။

မင်းသမီးသည် လောကဓံတရားကို သိနားလည်သူ ဖြစ်သောကြောင့် မင်းသား ပစ်သွားသော်လည်း ဝမ်းမနည်း။ ပူဆွေးခြင်းမဖြစ်။ မန်းမဝေးအရပ်ရှိ ရသေ့ကြီးထံ သွားသည်။ တရားအားထုတ်နည်းကို သင်ယူကာ ကြိုးစား၍ တရားအားထုတ်သည်။ မကြာမီပင် အောင်မြင်သွားသည်။ ဈာန်တန်ခိုးကို ရရှိသွားသည်။ ဤတွင် ရသေ့ကို ရှိခိုးကာ မိမိနေထိုင်ရာ တဲသို့ ပြန်၍ နေထိုင်သည်။

ဗြဟ္မဒတ်မင်းသားသည် ကိန္နရီမနောက်သို့ လိုက်ရာ မအောင်မြင်။ ဖမ်းမိမလိုလိုနှင့် လွတ်သွားသည်။ မျက်ခြည်ပြတ်သွားသည်။ ဤတွင် မင်းသမီးထံ ပြန်လာသည်။ မင်းသမီးသည် မင်းသားကို မြင်လျှင် ဈာန်တန်ခိုးဖြင့် ကောင်းကင်သို့ ပျံတက်လိုက်သည်။

"အရှင့်သား၊ သင့်ကြောင့် ငါသည် တရားအားထုတ်နိုင်ကာ ဈာန်ချမ်းသာကို ရရှိသွားပြီ။ သင့်ကို ငါ အလိုမရှိတော့ပြီ"ဟု ဆိုကာ ကောင်းကင်ခရီးဖြင့် အရပ်တစ်ပါးသို့ ငြိမ်းအေးစွာ ပျံသွားလေသည်။ မင်းသားမိုက်လည်း နောင်တရကာ ကျန်ရစ်လေသတည်း။ ။

မင်္ဂလာပုံပြင် – ၃၆

# တရားပြည့်ဝသော မိသားစု



၃၆။ အသောကံ ၊

ဧတံ မင်္ဂလ'မုတ္တမံ ။

ပျက်စီးခြင်း၊ ဆင်းရဲဒုက္ခ ဖြစ်ခြင်းနှင့်

တွေ့ကြုံရသောအခါ စိုးရိမ်ပူဆွေးမှု မရှိခြင်းသည်

မြတ်သော မင်္ဂလာ မည်၏ ။

# တရားပြည့်ဝသော မိသားစု

လွန်လေပြီးသောအခါ ဗာရာဏသီမြို့ တံခါးအနီးရှိ ရွာ၌ ပုဏ္ဏား မျိုးနွယ်ဝင် လယ်သမား ဇနီးမောင်နှံ နေထိုင်ကြသည်။ သူတို့မောင်နှံ အိမ်တွင် သား၊ ချွေးမ၊ သမီးနှင့် အိမ်ဖော်မိန်းမတို့အတူ နေထိုင်ကြ သည်။ အားလုံးပင် လယ်ယာလုပ်ငန်းကို စုပေါင်းလုပ်ကိုင်၍ အသက် မွေးဝမ်းကျောင်း ပြုကြသည်။

ဤမိသားစု၏ အကြီးအမှူးဖြစ်သော ပုဏ္ဏားကြီးသည် အလွန် တရားပြည့်ဝသည်။ ကောင်းမှုကို အလွန်မြတ်နိုးသည်။ ထို့ကြောင့် အိမ်သူအိမ်သားတို့အား "အလှူပေးကြကုန်။ သီလစောင့်ကြကုန်။ သေခြင်းတရားကို အောက်မေ့ဆင်ခြင်ကြကုန်။ ခပ်သိမ်းသော အရာ တို့သည် မမြဲ။ အားလုံးသော သတ္တဝါတို့သည် မမြဲ။ ပျက်စီးကြရသည်။ သေကြရသည်။ မမေ့လျော့ကြနှင့်။ သတိရှိကြကုန်"ဟူ၍ အစဉ် ဆုံးမလေ့ရှိသည်။ အိမ်သူ၊ အိမ်သားတို့သည်လည်း ပုဏ္ဏားကြီး ဆုံးမ သည့် အတိုင်းပင် လိုက်နာကြသည်။

တစ်နေ့သ၌ပုဏ္ဏားကြီးသည် သားနှင့်အတူ လယ်တောသို့သွား၍ လယ်ထွန်သည်။ သားသည် လယ်ထွန်ရာမှ အမှိုက်တို့ကို စုပုံ၍ မီး တိုက်သည်။ ထိုအခါ အနီးရှိတောင်ပို့၌ နေသော မြွေ၏မျက်စိကို မီးခိုးရိုက်ခတ်မိသည်။ မြွေသည် အမျက်ထွက်ကာ တောင်ပို့မှ ထွက် လာပြီး သားလုလင်ကို ပေါက်လိုက်သည်။ အလွန်အဆိပ်ပြင်းလှသဖြင့် သားလုလင် လဲကျ သေဆုံးသွားရှာသည်။ အဖ ပုဏ္ဏားကြီးသည် သားထံ ပြေးလာသည်။

အသက်မရှိတော့ပေ။ ဤတွင် သားအလောင်းကို ညင်သာစွာ ပွေ့ချီကာ သစ်ပင်ရင်းတစ်ခု၌ ချထားသည်။ ပူဆွေးငိုကြွေးခြင်း မပြု။ လယ်ကို ဆက်လက်ထွန်မြဲထွန်နေသည်။

မကြာမီ အိမ်နီးချင်း ယောကျ်ား တစ်ယောက် လယ်အနီးမှ ဖြတ်သန်းသွားသည်ကို မြင်လိုက်သည်။ ဤတွင် ပုဏ္ဏားကြီးက "အမောင်၊ ငါတို့အိမ်သို့ ဝင်သွားပေးပါ။ ပုဏ္ဏေးမအား ပြောပါ။ အခါတိုင်း ကဲ့သို့ နှစ်ယောက်စာ ထမင်းကို အိမ်ဖော်မအား မပို့ခိုင်းပါနှင့်။ တစ်ယောက်စာ ထမင်းကိုသာ ပို့ခိုင်းပါ။ ထို့ပြင် အိမ်ဖော်မ တစ်ယောက်တည်းသာ မဟုတ်။ တစ်အိမ်သားလုံး လာခဲ့ကြပါ။ အဝတ်သစ်များ ဝတ်ဆင်၍ ပန်းနံ့သာများလည်း ယူဆောင်လာခဲ့ကြ ဟု ပြောပါ "ဟူ၍ မှာကြားလိုက်သည်။

အိမ်နီးချင်း ယောကျ်ားလည်း တစ်စုံတစ်ရာမေးမြန်းခြင်း မပြု၊ "ကောင်းပါပြီ"ဟု ဆိုကာ ထွက်ခွာသွားသည်။ ပုဏ္ဏားအိမ်သို့ သွားကာ မှာလိုက်သော စကားတို့ကို ပုဏ္ဏေးမအား ပြောပြသည်။

ပုဏ္ဏေးမသည် ထိုစကားကို ကြားလျှင်ပင် သားသေဆုံးသည်ကို ရိပ်မိလိုက်သည်။ သို့ရာတွင် ပူဆွေးငိုကြွေးခြင်း မရှိ။ အိမ်သား အားလုံးကို ခေါ်ကာ လယ်တောသို့ လာခဲ့ကြသည်။

ရောက်လျှင် ထင်သည့်အတိုင်းပင် သားသေဆုံး နေသည်ကို တွေ့မြင်ကြရသည်။ သို့ရာတွင် အားလုံးပင် တရားကို နှလုံးသွင်းထားကြပြီး ဖြစ်သဖြင့် ပူဆွေးခြင်း မရှိကြ။ ငိုကြွေးခြင်း မပြုကြ။

ပုဏ္ဏားကြီးသည် သားအလောင်း ထားသော သစ်ပင်ရိပ်မှာပင် ထမင်းစားသည်။ ပြီးလျှင် အိမ်သားအားလုံးသည် ထင်းများကို ရှာဖွေစုပုံသည်။

ထင်းပုံထက်သို့ အလောင်းကိုတင်လျက်၊ ပန်းနံ့သာတို့ဖြင့် ကြဲဖြန့်ဆွတ်ဖြန်း၍ ကောင်းစွာ မီးသင်္ဂြိုဟ်ကြသည်။ ထိုစဉ်အခါ တစ်ယောက်

မှု မျက်ရည်မကျ။ သေခြင်းတရားကိုသာ ဆင်ခြင်ပွားများ၍ နေကြသည်။

ထိုသူတို့၏ တရားတန်ခိုးကြောင့် သိကြားမင်းသည် မနေသာ။ ထိုနေရာသို့ကြွလာပြီးလျှင် မေးမြန်းစုံစမ်းသည်။

"ပုဏ္ဏားကြီး၊ သင်သည် သားကို မချစ်ပြီလော။"

"အရှင်၊ ကျွန်ုပ်တို့သားကို ကျွန်ုပ်တို့ အလွန်ချစ်ပါသည်။"

"အလွန်ချစ်သောသား ဖြစ်ပါလျက် သေဆုံးသည်ကို အဘယ့်ကြောင့် မငိုကြွေးပါသနည်း။"

"အရှင်၊ မြွေသည် အရေဟောင်းကို စွန့်ခွာသွားသကဲ့သို့ ကျွန်ုပ်၏ သားသည်လည်း ခန္ဓာကိုယ်ကို စွန့်၍ သွားလေပြီ။ ကျွန်ုပ်တို့ ပူဆွေးငိုကြွေးခြင်းကို သားသည် သိနိုင်မည် မဟုတ်တော့ပါ။ ထို့ကြောင့် ကျွန်ုပ်တို့ ငိုကြွေးပူဆွေးခြင်း မပြုပါ။"

ထို့နောက် သိကြားမင်းသည် ပုဏ္ဏေးမကြီးကို မေးမြန်း စုံစမ်းပြန်သည်။

"မိခင်၊ အဘသည် ယောကျ်ားဖြစ်၍ စိတ်နှလုံး ခိုင်သောကြောင့် မငိုကြွေးသည်ကား ရှိစေတော့။ အမိမည်သည် စိတ်နှလုံးနူးညံ့ပါလျက်နှင့် သားသေသည်ကို အဘယ့်ကြောင့် မငိုကြွေးပါသနည်း။"

"အရှင်၊ ကျွန်ုပ်၏သားသည် မခေါ်ယူရဘဲ ဘဝတစ်ပါးမှ ကျွန်ုပ်တို့ထံ ရောက်လာပါသည်။ ယခုလည်း ကျွန်ုပ်တို့ ခွင့်မပြုဘဲ ဘဝတစ်ပါးသို့ ပြောင်းသွားပြန်ပါသည်။ အလိုအလျောက်လာ၍ အလိုအလျောက်ပြန်သွားရာ ငိုကြွေးခြင်းဖြင့် အဘယ်အကျိုး ရှိမည်နည်း။ ငိုကြွေးလျှင်လည်း သားသည် သိမည်မဟုတ်ပါ။"

သိကြားမင်းသည် လုလင်၏ နှမကို မေးပြန်သည်။

"နှမ၊ နှမတို့မည်သည် မောင်ကို ချစ်တတ်၏။ ယခု အဘယ့်ကြောင့် မငိုကြွေးပါသနည်း။"

"အရှင်၊ သေဆုံးသဖြင့် မီးသဂြိုဟ်ခြင်း ခံနေရသော မောင်သည် ဆွေမျိုးတို့ ငိုကြွေးသည်ကို အဘယ်မှာလျှင် သိနိုင်ပါမည်နည်း။ မိမိသွားရာ၊ လားရာဂတိသို့သာ သွားပေပြီ။ ကျွန်ုပ် ငိုကြွေး၍ အကျိုး ထူးပါမည်လော။"

ထို့နောက် သိကြားမင်းသည် သားလုလင်၏ ဇနီးကို မေးမြန်း ပြန်သည်။

"နှမ၊ မိန်းမတို့မှာ လင်ယောကျ်ား သေလတ်သော် ကိုးကွယ်ရာ မရှိကုန်။ မုဆိုးမ ဖြစ်ကုန်၏။ အဘယ့်ကြောင့် သင် မငိုကြွေးပါ သနည်း။"

"အရှင်၊ သေသူကို စိုးရိမ်တမ်းတ ငိုကြွေးနေသော သူသည် ကောင်းကင်ရှိ လမင်းကို 'ပေးပါ၊ပေးပါ'ဟု တောင်းရမ်း ငိုကြွေး နေသော သူငယ်နှင့် မတူပါလော။ ထို့ကြောင့် ကျွန်ုပ် ငိုကြွေးခြင်း မပြုပါ။"

သိကြားမင်းသည် အိမ်ဖော်မိန်းမကို မေးမြန်းပြန်သည်။

"နှမ၊ သေသူသည် သင့်အား ရိုက်နှက်ပုတ်ခတ်သူ ဖြစ်လိမ့်မည်။ ထို့ကြောင့် သင် မငိုကြွေးခြင်း ဖြစ်ရာသည်။"

"အရှင်၊ သည်စကားမျိုး မဆိုသင့်ပါ။ သေသူ ကျွန်ုပ်၏ အရှင်သည် ခန္တီ၊ မေတ္တာ၊ ကရုဏာနှင့် ပြည့်စုံသူ ဖြစ်ပါသည်။ ကျွန်ုပ်များစွာ လေးစားမြတ်နိုး လှပါသည်။ သို့ရာတွင် ယခု သေလွန်သည့်အတွက် ငိုကြွေးခြင်းဖြင့် အကြောင်းမထူးပါ။ ကွဲသွားသော အိုးသည်

တစ်ဖန်ပြန်၍ မဆက်စပ်နိုင်တော့ပါ။ ထို့အတူ သေသူအတွက် ငိုကြွေးသော်လည်း ပြန်၍ မရှင်လာနိုင်တော့ပါ။"

သိကြားမင်းသည် ဤငါးဦး၏ တရားပြည့်ဝသော စကားကို ကြားရသောအခါ လွန်စွာ လေးစားကြည်ညိုသွားသည်။ "သင်တို့သည် သေခြင်းတရားကို ဆက်လက် ရှုပွားကြလော့။ ယနေ့မှစ၍ ပင်ပန်းစွာ အလုပ်မလုပ်ကြနှင့်တော့။ သင်တို့ အိမ်၌ ရတနာ ၇ပါးတို့ဖြင့် အစဉ်ပြည့်နှက်နေအောင် ငါ မ,စမည်။ အေးငြိမ်းစွာ နေကြလော့။ အလှူပေး၍ ဥပုသ်သီတင်း စောင့်ကြကုန်လော့"ဟု ဆိုကာ ထိုနေရာမှ ထွက်ခွာသွားလေသည်။



မင်္ဂလာပုံပြင် – ၃၇

# အလို ကြီးသူ



၃၇။ ဝိရုဓံ ၊
စေတံ မင်္ဂလ'မုတ္တမံ ။
အလိုရမ္မက် ကင်းခြင်းသည်–
မြတ်သော မင်္ဂလာ မည်၏။

# အလိုကြီးသူ

ရှေးသရော်အခါ ဗာရာဏသီပြည်ဝယ် ဘုရင်တစ်ပါး စိုးစံသည်။ ထိုဘုရင်တွင် သားတော်နှစ်ပါးရှိရာ သားအကြီးကို အိမ်ရှေ့အရာ ပေးထားသည်။

တစ်နေ့တွင် ဘုရင်နတ်ရွာစံရာ မှူးမတ်တို့သည် သားတော်အကြီးကို ဘုရင်မြှောက်ကြသည်။ ထိုအခါ သားတော်အကြီး အိမ်ရှေ့မင်းက 'မင်းစည်းစိမ်ကို အလိုမရှိ'ဟု ဆိုကာ ငြင်းပယ်သည်။ ညီငယ်အား ထီးနန်းကို ပေး၍ နယ်စွန်နယ်ဖျား အရပ်သို့ သွားရောက်နေထိုင်သည်။

ထိုအရပ်ရှိ သူဌေးတစ်ဦး နေအိမ်၌ အလုပ်လုပ်၍ မှီခိုနေထိုင်သည်။ အစတွင် သူဌေးသည် သားတော်ကြီးကို မင်းသားမှန်း မသိ။ သို့ရာတွင် မကြာမီ သိသွားသည်။ ထိုအခါ သူဌေးက "အရှင့်သား၊ အလုပ် မလုပ်ပါနှင့်။ အရှင့်သားကို ကျွန်ုပ်တို့ လုပ်ကျွေးပါမည်။ အေးငြိမ်းစွာ သာ နေတော်မူပါ။ သို့ရာတွင် ညီတော့်ထံ ကျွန်ုပ်တို့အား အခွန် လွတ်ငြိမ်းခွင့် ပေးသနားပါရန် အလွှာစေ၍ တောင်းဆိုပေးပါ"ဟု ဆို၏။

မင်းသားသည် သူဌေးဆိုတိုင်း ပြု၏။ ညီတော် ဘုရင်လည်း နောင်တော်တောင်းဆိုသည့် အတိုင်း သူဌေးအတွက် အခွန်လွတ်ငြိမ်းခွင့် ပေး၏။ ထိုအကြောင်းကို ရွာသားများ သိသော် မင်းသားထံ ချဉ်း ကပ်လာကြသည်။ "အရှင့်သား၊ အကျွန်ုပ်တို့ကိုလည်း အခွန်မှ လွတ် ငြိမ်းခွင့်ရအောင် ဆောင်ရွက်ပေးပါ"ဟု ဆိုကြ၏။ အခွန်ကို မင်းသား အား ပေးဆက်ကြ၏။ မင်းသားလည်း ရွာသားတို့ပေးသော အခွန်ကို

ယူကာ ညီတော်ထံ ရွာသားတို့ကိုလည်း အခွန်လွတ်ငြိမ်းခွင့် ပြုရန် တောင်းဆိုသည်။ ညီတော်ဘုရင်လည်း နောင်တော့်အလိုကို လိုက်လျော ခွင့်ပြုသည်။ ထိုအခါ နောင်တော်မင်းသားသည် လောဘတက်လာ သည်။ အနီးအနားရှိ ရွာများမှ အခွန်များကိုပါ ယူသည်။ ညီတော်အား ထိုရွာများအတွက် အခွန်လွတ်ငြိမ်းခွင့် တောင်းဆိုပြန်သည်။ ညီတော် ဘုရင်လည်း နောင်တော် တောင်းတိုင်းပင် ပေး၏။

ညီတော်က ပေးလေလေ၊ နောင်တော်မှာ လောဘ ပွားလေလေ ဖြစ်လာသည်။ နောက်ဆုံးတွင် မင်းစည်းစိမ်ကို တောင့်တလာသည်။ လူသူစုဆောင်းလျက် "မင်းအဖြစ်ကို ယူအံ့"ဟူ၍ နေပြည်တော်သို့ ချီတက်လာသည်။ "ငါ့အား မင်းအဖြစ်ကိုတည်း ပေးမည်လော။ စစ်ကိုတည်းထိုးမည်လော"ဟု ညီတော်ထံ စာစေလိုက်သည်။

ညီတော်ဘုရင်လည်း "ဤသူမိုက်သည် ယခင်က ထီးနန်းကို စွန့် ပယ်ခဲ့သည်။ ယခု အလိုရမ္မက်ကြီးလာသဖြင့် စစ်ထိုး၍ ထီးနန်းကို ယူမည်ပြုလာသည်။ ညီတော်၊ နောင်တော် စစ်ထိုးသော် လူအများ သေကြေပျက်စီးကြတော့မည်။ ငါနိုင်လျှင်လည်း ကဲ့ရဲ့ဖွယ် ဖြစ်တော့ မည်"ဆိုကာ စစ်ထိုးခြင်း မပြု။ နောင်တော်အား အကြည်အသာပင် ထီးနန်းကို လွှဲအပ်ပေးသည်။ မိမိမူကား အိမ်ရှေ့မင်း အဖြစ်သာ နိမ့် ချစွာယူ၍ နေထိုင်သည်။

နောင်တော်သည် ထီးနန်းစည်းစိမ်ကို ရသော်လည်း မတင်းတိမ် ပြန်။ နှစ်ပြည်ထောင်၊ သုံးပြည်ထောင် စသည်ဖြင့် ပြည်ထောင် အများကို ပိုင်ဆိုင်လိုလာပြန်သည်။ ထိုအကြောင်းကို သိကြားမင်း သိသောအခါ "ဤသူမိုက်အား ငါဆိုဆုံးမ၍မှ သင့်တော့မည်"ဆိုကာ လုလင်အသွင် ဖန်ဆင်းသည်။ နောင်တော်မင်းထံ အခစားဝင်ကာ "မြတ်သောမင်းကြီး၊ အကျွန်ုပ်သည် သုံးပြည်ထောင်ကို သိမ်းပိုက်

နိုင်သော စွမ်းရည်ရှိပါသည်။ ယခုပင် အရှင့်အတွက် ထိုသုံးပြည်ထောင်ကို သိမ်းပိုက်၍ ဆက်သပါမည်။ စောင့်မျှော်တော်မူပါ။ မကြာမီ ဆောင်ကြဉ်း လာပါမည်”ဟု ဆိုကာ တာဝတိံသာသို့ ပြန်ကြွသွားသည်။

မင်းမိုက်မူ ထိုစကားကိုယုံကာ စောင့်မျှော်နေသည်။ သို့ရာတွင် လုလင် ပြန်မလာသောအခါ နှလုံးမသာမယာ ဖြစ်လာသည်။ နှလုံးမသာမယာ ဖြစ်လာရာမှ စိတ်ထိခိုက်ကာ ဝမ်းသွေးသွန်သော ရောဂါကို ခံစားရသည်။ အဆက်မပြတ် ဝမ်းသွေးသွန်ကာ ဝေဒနာကို ပြင်းစွာ ခံစားရသည်။ နန်းတွင်းရှိ သမားတော်တို့က ဆေးအမျိုးမျိုးဖြင့် ကုသကြသည်။ မရ။

ထိုစဉ် တက္ကသိုလ်ပြည်မှ အတတ်မျိုးစုံ သင်လာသော ဆေးဆရာကျော် တစ်ဦး ရောက်လာသည်။ ဘုရင်လည်း ထိုဆရာကိုပင့်၍ ကုသစေသည်။ ဘုရင်က “ဆရာ၊ ငါ၏ အနာသည် အလိုရမ္မက်ကို မှီ၍ ဖြစ်သောအနာ ဖြစ်သည်။ ကုစားနိုင်က ကုစားပေးပါ”ဟု ဆိုကာ အကြောင်းစုံပြောပြ၏။

ဆေးဆရာက “အရှင်မင်းကြီး၊ သင့်နိုင်ငံနှင့် အခြားသုံးပြည်ထောင် အပါအဝင် လေးပြည်ထောင်ကို ရသော်လည်း အရှင်မင်းကြီးသည် အိပ်ရာ ၄-ခုဖြင့် တစ်ပြိုင်နက် မအိပ်နိုင်။ ပုဆိုး ၄-ထည်ကို တစ်ပြိုင်နက် မဝတ်နိုင်။ ဘာမျှ အကြောင်းမထူး။ တဏှာနိုင်ငံသို့ လိုက်ခြင်းဖြင့် အပါယ်သို့သာ လားရမည်ဖြစ်သည်” စသည်ဖြင့် တရားပြဆိုဆုံးမ၏။ ထိုဆေးဆရာ၏ တရားကို နာရသောအခါ ဘုရင်သည် သတိသံဝေဂ ရသွားသည်။ ထိုအခါ အနာရောဂါလည်း ပျောက်ကင်းချမ်းသာရာ ရသွားသည်။

ဘုရင်လည်း ဆေးဆရာအား များစွာသော အသပြာကြေးငွေ တို့ကို ပေးအပ်ပူဇော်သည်။ ဆေးဆရာက မယူ။ "မင်းကြီး၊ မမေ့ မလျော့ဘဲ တရားမြတ်ကိုသာ ကျင့်ပါ" ဟု ဆိုကာ ထွက်ခွာသွားလေ သည်။ ။



# ဥဂ္ဂသေန



၃၈။ ခေမံ ၊ ဧတံ မင်္ဂလ'မုတ္တမံ ။

ကိလေသာမှ ကင်းလွတ်၍
ငြိမ်းအေး ဘေးမရှိခြင်းသည်
မြတ်သော မင်္ဂလာ မည်၏ ။

# ဥဂ္ဂသေန

ရှေးသရောအခါ ရာဇဂြိုဟ်မြို့တော်၌ ဥဂ္ဂသေန အမည်ရှိသော သူဌေးသားတစ်ယောက် ရှိသည်။ တစ်နေ့သ၌ ကချေသည် ငါးရာတို့သည် ရာဇဂြိုဟ်မြို့တော်၌ စံမြန်းသော ဗိမ္ဗိသာရမင်းကြီးထံ လာရောက် ကပြ ဖြေဖျော်ကြသည်။ ထိုအထဲတွင် ကချေသည်မတစ်ယောက်သည် အလွန်လှပ ချောမောရာ ဥဂ္ဂသေနသည် ချစ်ကြိုက်မိသည်။

ကချေသည်မသည် ကျွမ်းသမား ကချေသည်ကြီး၏ သမီး ဖြစ်သည်။ ကျွမ်းသမားကြီးသည် အတောင်–၆၀ရှိသော ဝါးလုံးထိပ်တွင် ရပ်ကာ အမျိုးမျိုး ကပြနိုင်သည်။

ဥဂ္ဂသေနသည် ကချေသည်မကို တပ်မက်စွဲလမ်းလှသဖြင့် မအိပ်နိုင်။ မစားနိုင်။ ညောင်စောင်းပေါ်တွင် လဲလျောင်း၍သာ နေ၏။ မိဘများက သိရှိသဖြင့် အမျိုးမျိုး ဖျောင်းဖျ ပြောဆိုကြသည်။ ဥဂ္ဂသေနကား နားမဝင်နိုင်ပေ။ နောက်ဆုံးတွင် မိဘများသည် မိတ်ဆွေ တစ်ယောက်အား အသပြာတစ်ထောင်ထုပ်ကို ပေးအပ်၍ ကချေသည်မ၏ဖခင် ကျွမ်းသမားကြီးထံ သမီးတောင်းစေသည်။

ကျွမ်းသမားကြီးက "ငါ့သမီးကို သူဌေးအိမ်သို့ကား မထည့်နိုင်။ ဥဂ္ဂသေနသည် ငါတို့ အဖွဲ့နှင့် တစ်ပါတည်း လိုက်နေနိုင်လျှင် သမီးနှင့် ပေးစားမည်"ဟု စကားပြန်လိုက်သည်။

ထိုအဆိုကို ဥဂ္ဂသေန၏ မိဘများက လက်မခံပေ။ သို့ရာတွင် ဥဂ္ဂသေနသည် မိဘများ တားမြစ်သည်ကို လက်မခံဘဲ ကချေသည်မ

နှင့် လက်ထပ်လိုက်သည်။ သူ့တို့ လှည့်လည်သွားလာရာသို့ အတူ လိုက်ပါသွားသည်။ သို့ရာတွင် သူသည် ကျွမ်း အတတ်၊ ကချေသည် အတတ် စသည်တို့ကို မတတ်ကျွမ်းသဖြင့် ပါဝင်မကပြနိုင်။ ကချေသည်တို့ ရပ်နားလိုရာနေရာသို့ရောက်လျှင် ဆင်း၍ လှည်းဖြုတ်ရသည်။ နွားစာမြက် ရှာရသည်။ ကပြရာမှ ဆုချ၍ ရသော အသပြာများကို ထုပ်ပိုးသယ်ဆောင်ရသည်။

မကြာမီ ကချေသည်မသည် သားကလေး တစ်ယောက် ဖွားမြင်သည်။ ထိုအခါ ဥဂ္ဂသေနကို နှိမ့်ချသောအားဖြင့် 'လှည်းစောင့်၏ သား'၊ 'ဥစ္စာထုပ် ထမ်းသမား၏သား'၊ 'ဘာမျှ မတတ်သူ၏သား' စသည်ဖြင့် ကလေးကို ပြောဆိုချော့မြူသည်။ ဥဂ္ဂသေနလည်း မိမိ အဖြစ်ကို အလွန်ရှက်သွားသည်။ ယောက္ခမ ကျွမ်းသမားကြီးထံမှ အတတ်ပညာများကို ကြိုးစားသင်ယူသည်။ တစ်နှစ်တာမျှ သင်ယူပြီး သောအခါ တတ်မြောက်သွားသည်။

ဥဂ္ဂသေနသည် မြို့ရွာအနှံ့ မိမိ၏ အတတ်ပညာကို အောင်မြင်စွာ ပြသလာရာမှ နောက်ဆုံးတွင် ရာဇဂြိုဟ်မြို့တော်သို့ ရောက်လာသည်။ ၇-ရက်မြောက်သော နေ့၌ 'ဥဂ္ဂသေန သူဌေးသားက အတတ်ပညာ ပြလိမ့်မည်'ဟု ကြေညာစေသည်။

မြို့သူမြို့သားတို့သည် ပွဲသဘင်ကို ကြည့်ရှုရန် စုဝေးရောက်ရှိ လာကြသည်။ ဥဂ္ဂသေနသည် မိမိအစွမ်းကို ပြရန် အတောင် ၆၀-ရှိသော ဝါးလုံးထိပ်သို့ တက်လျက် ရပ်သည်။ အစွမ်းပြမည် ပြု သည်။ ထိုစဉ် ဗုဒ္ဓဘုရားရှင်သည် နောက်ပါ သံဃာတော်များနှင့် တကွ ဆွမ်းခံကြွလာသည်။ ထိုအခါ ပရိသတ်တို့သည် ဥဂ္ဂသေနကို မကြည့်ကြဘဲ ဘုရားရှင်ရှိရာသို့သာ လှမ်း၍ကြည့်ရှု ဖူးမြော်ကြသည်။

ဤတွင် ဥဂ္ဂသေနသည် စိတ်နှလုံး မသာမယာ ဖြစ်သွားသည်။ ဘုရားရှင်သည် ဥဂ္ဂသေန၏ ဖြစ်အင်ကို သိရှိတော်မူသဖြင့် အရှင်မဟာမောဂ္ဂလာန်ကို စေလွှတ်တော်မူသည်။ ဥဂ္ဂသေနအားကပြရန် တိုက်တွန်းစေတော်မူသည်။ အရှင်မဟာမောဂ္ဂလာန်လည်း ဝါးလုံးနားသို့ ကြွလာ၍ တိုက်တွန်း၏။

ဥဂ္ဂသေနသည် အားတက်သွားကာ ဝါးလုံးထိပ်မှာပင် အားပါးတရ ကျွမ်းထိုးမှောက်ခုံ အမျိုးမျိုးပြ၍ ကပြ၏။ ၁၄–ကြိမ်တိုင် ကပြပြီးသော် ဘုရားရှင်သည် ဥဂ္ဂသေနကို လှမ်း၍ တရားဟောတော်မူသည်။ ဥဂ္ဂသေနသည် ပါရမီရှိသူ ဖြစ်သဖြင့် ဝါးလုံးထိပ်ဖျားမှာပင် တရားထူး ရသွားသည်။ စိတ်ငြိမ်းချမ်းမှုရကာ ရဟန္တာ ဖြစ်သွားသည်။

သူသည် ဝါးလုံးထိပ်မှ ဆင်းကာ ဘုရားရှင်၏ ခြေတော်စုံကို ဦးခိုက်သည်။ ရဟန်းပြုခွင့် တောင်းသည်။ ဘုရားရှင်က "လာလော့ ရဟန်း"ဟု ခေါ်တော်မူလျှင်ပင် ဥဂ္ဂသေန၏ လူ့အသွင် ကွယ်ပျောက်သွားသည်။ သင်္ကန်း၊ ပရိက္ခရာ အစုံအလင်နှင့် ကြည်ညိုဖွယ်ရာ ရဟန်းအသွင် ဖြစ်လာသည်။ ရဟန္တာမြတ် အရှင်ဥဂ္ဂသေနသည် အားလုံးကို စွန့်ကာ ငြိမ်းအေးစွာဖြင့် ထွက်ခွာသွားလေသည်။

အရှင် ဥဂ္ဂသေန၏ မယားဟောင်း ကချေသည်မလည်း လင်ဖြစ်သူ၏ သွားရာလမ်းကြောင်းအတိုင်း လိုက်ကာ ရဟန်းမပြုသည်။ တရားအားထုတ်ရာ ငြိမ်းချမ်းသော ရဟန္တာအရှင်မ ဖြစ်သွားလေသည်။ ။

# ၃၈–ဖြာ မင်္ဂလာ ဖြစ်ပေါ်လာပုံ

ဂေါတမ ရှင်တော်မြတ်ဘုရား မပွင့်သေးမီ အချိန်နှင့် ပွင့်စအချိန်တွင် 'မင်္ဂလာ' ဆိုတာဘာလဲ ဟူသော ပြဿနာတစ်ရပ် ထိုခေတ်ထိုအခါက ပေါ်ပေါက်ခဲ့သည် ။ အချို့က နှစ်သက်ဖွယ် ရူပါရုံကို မြင်ရခြင်းသည် မင်္ဂလာ၊ အချို့က နှစ်သက်ဖွယ် အသံကို ကြားရခြင်းသည် မင်္ဂလာ ၊ အချို့က နှစ်သက်ဖွယ် အနံ့ ၊ အရသာကို ခံစားရခြင်းသည် မင်္ဂလာ ၊ အချို့က နှစ်သက်ဖွယ် အတွေ့အထိကို ထိတွေ့ရခြင်းသည် မင်္ဂလာ စသည်ဖြင့် အမျိုးမျိုး ပြောဆိုကြသည်။ ငြင်းခုံကြသည်။ သို့ရာတွင် အဖြေမှန်ကား မရ ။

လူ့ပြည်၌ အစပျိုးခဲ့သော ဤမင်္ဂလာ ပြဿနာသည် နတ်ပြည်သို့ပင် ကူးစက်သွားသည်။ စတုမဟာရာဇ် ၊ တာဝတိံသာ စသော နတ်ပြည်တို့မှ နတ်သဘင် အစည်းအဝေးများ၌လည်း မင်္ဂလာပြဿနာ ဆွေးနွေးပွဲများ ဆက်လက် ဖြစ်ပေါ်ခဲ့သည်။ ၁၂–နှစ်တိုင် ကြာခဲ့သည် ။ အများလက်ခံ ကျေနပ်နိုင်သော အဖြေကို မရကြ ။

နောက်ဆုံး၌ တာဝတိံသာမှ နတ်တို့က မိမိတို့၏ အကြီးအကဲဖြစ်သော သိကြားမင်းထံ သွား၍ မင်္ဂလာပြဿနာကို မေးမြန်းကြသည် ။ သိကြားမင်းလည်း မဖြေနိုင် ။ နတ်သားတစ်ပါးကို ဗုဒ္ဓမြတ်စွာဘုရားထံ စေလွှတ်၍ မေးလျှောက်စေသည်။ ထိုနတ်သားလည်း ဇေတဝန်ကျောင်းတော်၌ သီတင်းသုံးတော်မူနေသော မြတ်စွာဘုရားထံ သန်းခေါင်ယံအချိန်၌ သွားရောက် ဖူးမြော်၍ မေးမြန်း လျှောက်ထားသည် ။ ထိုအခါ ဘုရားရှင်က 'အသေဝနာ စ ဗာလာနံ' အစရှိသော

မင်္ဂလာတရားတော် အမှန်ကို ဟောကြားတော်မူသည် ။ ထိုအခါတွင်မှ မင်္ဂလာ ပြဿနာသည် ဖြေရှင်းပြီး ဖြစ်သွားသည် ။

နံနက်မိုးသောက်သောအခါ ထိုမင်္ဂလာတရားတော်ကို မြတ်စွာဘုရားသည် အရှင် အာနန္ဒာကို ထပ်မံ ဟောကြားတော်မူသည်။ ထိုအခါမှ ရဟန်းရှင်လူ အများလည်း မင်္ဂလာတရားတော်ကို သိရှိကြတော့သည်။ ဘုရားရှင် ပရိနိဗ္ဗာန်ပြုပြီး၍ ပထမ သင်္ဂါယနာ တင်ရာတွင် အရှင်မဟာ ကဿပ အမှူးပြုသော ရဟန္တာ ငါးရာရှေ့မှောက်၌ အရှင်အာနန္ဒာသည် ထပ်မံ တင်ပြခဲ့သည်။ ထိုတင်ပြချက်ကို နာယူမှတ်သားကာ ခေတ်အဆက်ဆက် လိုက်နာကျင့်သုံး လာကြသည်မှာ ယနေ့ခေတ် တိုင်အောင်ပင် ဖြစ်ပေသည် ။

## မင်္ဂလာ တရားတော်၏ အကျိုးကျေးဇူး

မင်္ဂလာတရားတော်များကိုလိုက်နာကျင့်သုံးခြင်းဖြင့် အောင်မြင်ခြင်း၊ ကြီးပွားခြင်း ၊ တိုးတက်ခြင်း ၊ ဘေးရန်ကင်းခြင်း၊ ငြိမ်းချမ်းခြင်း၊ ကုသိုလ်တရား ဖြစ်ထွန်းခြင်း စသော လောကီချမ်းသာ တို့ကိုလည်း ရရှိနိုင်သည်။ ထို့ပြင် မဂ်ဖိုလ်နိဗ္ဗာန် တည်းဟူသော လောကုတ္တရာ ချမ်းသာကိုလည်း ရရှိနိုင်ပေသည်။

ထို့ပြင် အလှူဒါန ပြုလုပ်သောအခါ ၊ အိမ်သစ် ရာသစ် တက်သောအခါ ၊ မွေးနေ့ ကျရောက်သောအခါ၊ နှစ်သစ်ကူးသောအခါ စသည်တို့၌ သံဃာတော်များကို ပင့်ဖိတ်၍ မင်္ဂလသုတ်ကို နာယူခြင်း၊ မိမိကိုယ်တိုင်လည်း ရွတ်ဖတ်ခြင်း ပြုလေ့ရှိကြပါသည်။ ဤသို့ပြုခြင်းဖြင့် ဘေးအန္တရာယ် ကင်းရှင်းခြင်း ၊အကြံအစည် ပြီးမြောက်ခြင်း၊ ကျက်သရေမင်္ဂလာတိုးခြင်း စသော အကျိုးကျေးဇူးများ ရရှိနိုင်သည် ဟု အစဉ်အလာ ယုံကြည် လက်ခံ ထားကြပါသည်။ ။

# လယ်တီ မင်္ဂလသုတ္တန်

**နမော တဿ ဘဂဝတော အရဟတော သမ္မာသမ္ဗုဒ္ဓဿ ။**

## မင်္ဂလသုတ် ပါဠိတော်

## မင်္ဂလသုတ် နိဒါန်း

ဧဝံ မေ သုတံ–
ဧကံ သမယံ ဘဂဝါ သာဝတ္ထိယံ ဝိဟရတိ
ဇေတဝနေ အနာထပိဏ္ဍိကဿ အာရာမေ ။
အထ ခေါ အညတရာ ဒေဝတာ
အဘိက္ကန္တာယ ရတ္တိယာ အဘိက္ကန္တဝဏ္ဏာ
ကေဝလကပ္ပံ ဇေတဝနံ ဩဘာသေတွာ
ယေန ဘဂဝါ, တေနုပသင်္ကမိ ၊ ဥပသင်္ကမိတွာ
ဘဂဝန္တံ အဘိဝါဒေတွာ ဧကမန္တံ အဋ္ဌာသိ။
ဧကမန္တံ ဌိတာ ခေါ သာ ဒေဝတာ
ဘဂဝန္တံ ဂါထာယ အဇ္ဈဘာသိ ။
ဗဟူ ဒေဝါ မနုဿာ စ၊ မင်္ဂလာနိ အစိန္တယုံ ။
အာကင်္ခမာနာ သောတ္ထာနံ ၊ ဗြူဟိ မင်္ဂလ မုတ္တမံ ။

မင်္ဂလသုတ် နိဒါန်း ပြီး၏ ။

# မင်္ဂလသုတ် ဂါထာ

၁။ အသေဝနာ စ ဗာလာနံ ၊ ပဏ္ဍိတာနဉ္စ သေဝနာ ။
ပူဇာ စ ပူဇနေယျာနံ ၊ ဧတံ မင်္ဂလ' မုတ္တမံ ။
၂။ ပတိရူပ ဒေသဝါသော စ ၊ ပုဗ္ဗေ စ ကတပုညတာ ။
အတ္တသမ္မာပဏိဓိ စ ၊ ဧတံ မင်္ဂလ' မုတ္တမံ ။
၃။ ဗာဟုသစ္စဉ္စ သိပ္ပဉ္စ ၊ ဝိနယော စ သုသိက္ခိတော ။
သုဘာသိတာ စ ယာ ဝါစာ ၊ ဧတံ မင်္ဂလ' မုတ္တမံ ။
၄။ မာတာပိတု ဥပဋ္ဌာနံ ၊ ပုတ္တဒါရဿ သင်္ဂဟော ။
အနာကုလာ စ ကမ္မန္တာ ၊ ဧတံ မင်္ဂလ' မုတ္တမံ ။
၅။ ဒါနဉ္စ ဓမ္မစရိယာ စ ၊ ဉာတကာနဉ္စ သင်္ဂဟော ။
အနဝဇ္ဇာနိ ကမ္မာနိ ၊ ဧတံ မင်္ဂလ' မုတ္တမံ ။
၆။ အာရတီ ဝိရတီ ပါပါ ၊ မဇ္ဇပါနာ စ သံယမော ။
အပ္ပမာဒေါ စ ဓမ္မေသု ၊ ဧတံ မင်္ဂလ' မုတ္တမံ ။
၇။ ဂါရဝေါ စ နိဝါတော စ ၊ သန္တုဋ္ဌိ စ ကတညုတာ ။
ကာလေန ဓမ္မဿဝနံ ၊ ဧတံ မင်္ဂလ' မုတ္တမံ ။
၈။ ခန္တီ စ သောဝစဿတာ ၊ သမဏာနဉ္စ ဒဿနံ ။
ကာလေန ဓမ္မသာကစ္ဆာ ၊ ဧတံ မင်္ဂလ' မုတ္တမံ ။
၉။ တပေါ စ ဗြဟ္မစရိယဉ္စ ၊ အရိယသစ္စာန ဒဿနံ ။
နိဗ္ဗာန သစ္ဆိကိရိယာ စ ၊ ဧတံ မင်္ဂလ' မုတ္တမံ ။
၁၀။ ဖုဋ္ဌဿ လောကဓမ္မေဟိ ၊ စိတ္တံ ယဿ န ကမ္ပတိ ။
အသောကံ ဝိရဇံ ခေမံ ၊ ဧတံ မင်္ဂလ' မုတ္တမံ ။

၁၁။ ဧတာဒိသာနိ ကတွာန ၊ သဗ္ဗတ္ထ မပရာဇိတာ ။
သဗ္ဗတ္ထ သောတ္ထိံ ဂစ္ဆန္တိ ၊ တံ တေသံ မင်္ဂလ မုတ္တမံ။

မင်္ဂလသုတ် ဂါထာပြီး၏ ။
ဤတွင် မင်္ဂလသုတ် ပါဠိတော်ပြီး၏ ။



# မင်္ဂလသုတ် နိဿယ

## မင်္ဂလသုတ် နိဒါန်း အနက်

ဘန္တေ၊ ကဿပ ဟူ နာမထင်ရှား အရှင်ဘုရား ။ မေ မယာ၊ အာနန္ဒာဟု သညာသမုတ် အကျွန်ုပ်သည် ။ ဧဝံ ဤသို့။ သုတံ၊ မြတ်စွာဘုရား မိန့်စကားကို နားဝယ်ဆတ်ဆတ် ကြားနာအပ်၏ ။ ကိံ သုတံ ။ အဘယ်သို့ ကြားနာအပ်သနည်း ဟူမူကား–

ဧကံ သမယံ ။ အခါတပါး၌ ။ ဘဂဝါ ။ မြတ်စွာဘုရားသည်။ သာဝတ္ထိယံ၊ သာဝတ္ထိပြည်၌။ ဇေတဝနေ ။ ဇေတဝန်ဥယျာဉ်၌။ အနာထပိဏ္ဍိကဿ ၊ အနာထပိဏ်သူဌေး၏။ အာရာမေ ။ ကျောင်းအရာမ်၌ ။ ဝိဟ ကိ၊ ဣရိယာပုထ် အလိုက်မှီတင်း သီတင်းကြည်ဖြူနေတော်မူ၏ ။

အထ ခေါ ။ ထိုအခါ၌ ။ အညတရာ ။ အမျိုးအမည်အားဖြင့် မထင်ရှားသော။ ဒေဝတာ၊ နတ်သားသည်။ အဘိက္ကန္တာယ၊ ညဉ့်ဦးယံ ကို လွန်ပြီးသော။ ရတ္တိယာ၊ ညဉ့်သန်းခေါင် အခါ၌။ အဘိက္ကန္တဝဏ္ဏာ၊ အလွန် နှစ်သက်ဖွယ်သော အဆင်းရှိသည်ဖြစ်၍။ ကေဝလကပ္ပံ၊ အလုံးစုံသော ။ ဇေတဝနံ ။ ဇေတဝန် ဥယျာဉ် တစ်ခုလုံးကို။ ဩဘာသေတွာ၊ ကိုယ်ရောင်ကိုယ်ဝါဖြင့် ထွန်းလင်း တောက်ပစေ၍ –

ယေန ၊ အကြင်အရပ်၌ ။ ဘဂဝါ၊ မြတ်စွာဘုရားသည် ။ အတ္ထိ ၊ ရှိတော်မူ၏ ။ တေန၊ ထိုအရပ်သို့ ။ ဥပသင်္ကမိ၊ ကပ်လာ၏ ။ ဥပသင်္ကမိတွာ၊ ကပ်လာပြီး၍။ ဘဂဝန္တံ၊ မြတ်စွာဘုရားကို ။ အဘိ

ဝါဒေတိ ၊ ဝပ်တွားရိုကျိုး ရှိခိုး၏ ။ အဘိဝါဒေတွာ၊ ဝပ်တွားရိုကျိုး ရှိခိုးပြီး၍။ ကေမန္တံ ၊ သင့်တင့်လျော်ကပ်ပတ်သော အရပ်၌။ အဋ္ဌာသိ ၊ ရပ်၏ ။ ကေမန္တံ၊သင့်တင့် လျော်ကပ်ပတ်သော အရပ်၌ ။ ဌိတာ ခေါ၊ ရပ်ပြီးသော ။ သာ ဒေဝတာ၊ ထိုနတ်သားသည်။ ဘဂဝန္တံ ၊ မြတ်စွာဘုရားကို ။ ဂါထာယ ၊ ဂါထာစကားဖြင့် ။ အဇ္ဈဘာသိ၊ နားတော်လျှောက်ပေ၏ ။ ကိံ အဇ္ဈဘာသိ၊ အဘယ်သို့ နားတော် လျှောက်သနည်း ဟူမူကား –

ဘန္တေ ဘဂဝါ၊ ဘုန်းတော်ကြီးလှသော မြတ်စွာဘုရား ။ ဗဟူ ၊ များစွာကုန်သော ။ ဒေဝါ စ ၊ နတ်တို့သည်လည်းကောင်း။ မနုဿာ စ ၊ လူတို့သည်လည်းကောင်း ။ သောတ္ထာနံ ၊ ကောင်းကျိုးချမ်းသာ မင်္ဂလာကို။ အာကင်္ခမာနာ ၊ သိလို၊ မြင်လို၊ ပြည့်စုံလိုကြကုန်သည် ဖြစ်၍ ။ မင်္ဂလာနိ ၊ ကောင်းမြတ်ချမ်းသာ မင်္ဂလာတို့ကို။အစိန္တယုံ၊ ထွေထွေလာလာ ရှာကြံယူဆကြကုန်၏ ။ ဥတ္တမံ ၊ အမှန်မုချ မြတ်ထွတ်လှသော။ မင်္ဂလံ၊ မင်္ဂလာစစ် တရားနှစ်ကို။ ဗြူဟိ၊ ဟောတော်မူပါလော့ ။

ဣတိ ၊ ဤသို့ ။ အဇ္ဈဘာသိ ၊ နားတော်လျှောက်လေ၏ ။

မင်္ဂလသုတ် နိဒါန်း အနက်ပြီး၏ ။

## မင်္ဂလသုတ် ဂါထာ အနက်

ကိံ ၊ အဘယ်သို့ ။ ဘဂဝါ ၊ မြတ်စွာဘုရားသည် ။ အဝေါစ ၊ ဟောကြားတော်မူ သနည်း ဟူမူကား –

၁။ (က) ဒေဝတေ၊ နတ်သား ။ ဗာလာနံ ၊ မကောင်း ဒုစရိုက် သူ အမိုက်တို့ကို။ အသေဝနာ စ၊ ဆရာအမှတ် မိတ်

အမှတ်ဖြင့် မဆည်းကပ် မပေါင်းဖော်ရခြင်း သည်လည်းကောင်း ။

(ခ) ပဏ္ဍိတာနံ ၊ ဒုစရိုက်အပေါင်း ကင်းလွတ် ရှောင်းလျက် ကျိုးကြောင်းမြင်သိ ပညာရှိတို့ကို ။ သေဝနာ စ ၊ ဆရာအမှတ် မိတ်အမှတ်ဖြင့် ဆည်းကပ် ပေါင်းဖော်ရခြင်း သည်လည်းကောင်း ။

(ဂ) ပူဇနေယျာနံ ၊ ဂုဏာဝုဒ္ဓိ၊ ဝယဝုဒ္ဓိ ကျေးဇူးရှိနှင့် မိဘဆရာ ရတနာသုံးပါး တရားကျင့်သူ စင်ဖြူစရိုက် ပူဇော်ထိုက်သော သူတို့ကို ။ ပူဇာ စ ၊ ရှိသေသမှုအပြုအမူ ပျူငှါဆေးလေး ကျွေးမွေးဖေးကမ်း လှူဒါန်းပူဇော်ရခြင်းသည် လည်းကောင်း။

ဧတံ ၊ ဤတရား ၃ ပါးသည် ။ ဥတ္တမံ ၊ အများလောက သမုတ်ကြသော ဒိဋ္ဌ မင်္ဂလာ၊ သုတ မင်္ဂလာ၊ မုတ မင်္ဂလာ စသည့်တို့ထက် ဆတက်လွန်ကျူး အထူးမြင့်မြတ်သော ။ မင်္ဂလံ ၊ လောကီ လောကုတ္တရာ ချမ်းသာပွားကြောင်း ကောင်းသော မင်္ဂလာမည်၏။

၂။ (က) ဒေဝတေ ၊ နတ်သား ။ ပတိရူပဒေသဝါသော စ ၊ သူတော်ကောင်းတရား ထွန်းကားရာမှန် လျော်ကန်လျောက်ပတ်သော အရပ်ဒေသ၌ နေရခြင်းသည်လည်းကောင်း။

(ခ) ပုဗ္ဗေ ၊ ရှေးဘဝ၌ ။ ကတပုညတာ စ ၊ ပြုခဲ့ဖူးသော ကောင်းမှုကုသိုလ် ရှိသည်၏ အဖြစ်သည် လည်းကောင်း။

(ဂ) အတ္တသမ္မာပဏိဓိ စ ၊ မိမိ စိတ်ကို အလိုမလိုက် ဒုစရိုက်သို့ လိုက်ခွင့်မပေး ယဉ်ကျေးလိမ္မာ ကောင်း

မြတ်ရာ၌သာ ကောင်းစွာ ခိုင်ကျည် အမြဲတည်စေရခြင်းသည် လည်းကောင်း ။

တေ ၊ ဤတရား ၃-ပါးသည် ။ ဥတ္တမံ ၊ အများလောကသမုတ်ကြသော ဒိဋ္ဌ မင်္ဂလာ ၊ သုတ မင်္ဂလာ ၊ မုတ မင်္ဂလာ စသည်တို့ထက် ဆတက်လွန်ကျူး အထူးမြင့်မြတ်သော။ မင်္ဂလံ၊ လောကီလောကုတ္တရာ ချမ်းသာပွားကြောင်း ကောင်းသော မင်္ဂလာ မည်၏။

၃။ (က) ဗေဝစော ၊ နတ်သား ။ ဗာဟုသစ္စဉ္စ ၊ တရားကျမ်းဂန်သင်အံကြည့်မှတ် လွန်နှံ့စပ်သော အတတ်ကောင်းပညာကောင်းနှင့် ပြည့်စုံရခြင်းသည် လည်းကောင်း။

(ခ) သိပ္ပဉ္စ ၊ အပြစ်မထင် စက်မှုလက်မှု စသော အတတ်ကို သင်ကြားရခြင်းသည် လည်းကောင်း ။

(ဂ) သုသိက္ခိတော ၊ ငယ်ရွယ်စဉ်က သွန်သင်ဆုံးမ အချိုးကျပြီးသော။ ဝိနယော စ ၊ အမိဝတ်ငါးပါး ၊ အဖဝတ်ငါးပါး အစရှိသော အမျိုးကောင်းသမီး ၊ အမျိုးကောင်းသား ဝတ္တရားနှင့် ပြည့်စုံရခြင်းသည် လည်းကောင်း ။

(ဃ) သုဘာသိတာ ၊ အပြစ်စင်ကြယ် ချစ်ကြင်ဖွယ်နှင့် နာဖွယ်ကျိုးလို ကောင်းစွာဆိုအပ်သော ။ ယာဝါစာ စ ၊ အကြင်စကားကောင်းမျိုးသည် လည်းကောင်း ။

တေ ၊ ဤတရား ၄-ပါးသည် ။ ဥတ္တမံ ၊ အများလောက သမုတ်ကြသော ဒိဋ္ဌ မင်္ဂလာ၊ သုတ မင်္ဂလာ၊ မုတ မင်္ဂလာ စသည်တို့ထက် ဆတက်လွန်ကျူး အထူးမြင့်မြတ်သော။ မင်္ဂလံ၊ လောကီ လောကုတ္တရာ ချမ်းသာပွားကြောင်း ကောင်းသော မင်္ဂလာ မည်၏။

၄ ။ (က) ဒေဝတေ ၊ နတ်သား ။ မာတာပိတု ၊ အမိ အဖကို ။ ဥပဋ္ဌာနဥ္စ ။ ပင်စင် အခြိမ်းစား ကောင်းစွာထား၍ ဆပ်ပွားကြည်ညို မေတ္တာပိုလျက် ကိုယ်တိုင်ကိုယ်ကြပ် ဝတ်နိဗဒ်ဖြင့် မလပ်မဟာင်း လုပ်ကျွေးရခြင်းသည် လည်းကောင်း ။

(ခ) ပုတ္တဒါရဿ ၊ သမီးနှင့်သား ကြင်မယားကို ။ သင်္ဂဟော စ ၊ သားသမီးဝတ် မယားဝတ်ကို မချွတ်စေလို မေတ္တာပိုလျက် သင်္ဂြိုဟ်ထောက်ပံ့ ရခြင်းသည် လည်းကောင်း ။

(ဂ) အနာကုလာ ၊ အသောက်အစား အကစားနှင့် အကြွား အဝါ မလိမ်မာတွက် စီးပွားပျက်ရန် နှောင့်ယှက်မရှိ ချောမောဘိကုန်သော ။ ကမ္မန္တာ စ ၊ စီးပွားမှုတို့သည် လည်းကောင်း ။

တေ ၊ ဤတရား ၃ ပါး ၊ ၄ ပါး ၊ ၅ ပါးသည် ။ ဥတ္တမံ ၊ အများလောက သမုတ်ကြသော ဒိဋ္ဌ မင်္ဂလာ ၊ သုတ မင်္ဂလာ၊ မုတ မင်္ဂလာ စသည်တို့ထက် ဆတက်လွန်ကျူး အထူးမြင့်မြတ်သော ။ မင်္ဂလံ ၊ လောကီ လောကုတ္တရာ ချမ်းသာပွားကြောင်း ကောင်းသော မင်္ဂလာ မည်၏ ။

၅ ။ (က) ဒေဝတေ ၊ နတ်သား ။ ဒါနဉ္စ ၊ သံသရာရေး သဒ္ဓါရေး၍ ပေးလှူ စွန့်ကြဲမှုသည် လည်းကောင်း ။

(ခ) ဓမ္မစရိယာ စ ၊ သုစရိုက်တရားကို အားထုတ် ကျင့်ဆောင်မှုသည် လည်းကောင်း ။

(ဂ) ဉာတကာနံ ၊ ဘိုးကြီး ၊ ဘွားကြီး ၊ ဘကြီး ၊ ဘထွေး ၊ အစရှိကုန်သော မိနွယ် ၊ ဖရိုး ဆွေမျိုးအပေါင်းဂိုဏ်း

အား။ သင်္ဂဟော စ ၊ ဆွေဝတ် မျိုးဝတ် မယွင်းချွတ် အောင် ဖြူဆွတ်သဒ္ဓါ စေတနာဖြင့် ကောင်းစွာသဂြိုဟ် ထောက်ပံ့ရခြင်းသည် လည်းကောင်း။

(ဃ) အနဝဇ္ဇာနိ၊ ဒုစရိုက်ပြစ် အညစ်မထင် သန့်ရှင်းစင် ကုန်သော ။ ကမ္မာနိ စ ၊ ကာယကံမှု ၊ ဝစီကံမှု ၊ မနောကံမှု တို့သည် လည်းကောင်း ။

ဧတံ၊ ဤတရား ၄-ပါးသည် ။ ဥတ္တမံ ၊ အများလောက သမုတ်ကြသော ဒိဋ္ဌ မင်္ဂလာ ၊ သုတမင်္ဂလာ ၊ မုတမင်္ဂလာ စသည် တို့ထက် ဆတက်လွန်ကျူး အထူးမြင့်မြတ်သော။ မင်္ဂလံ၊ လောကီ လောကုတ္တရာ ချမ်းသာပွားကြောင်း ကောင်းသော မင်္ဂလာ မည်၏။

၆ ။ (က) ဒေဝတေ ၊ နတ်သား ။ ပါပါ ၊ အမျက်ထန်ခြင်း၊ ရန်ငြိုးဖွဲ့ခြင်း၊ ကျေးဇူးမဲ့ခြင်း ၊ သူတပါးကို မနာလိုခြင်း၊ ဝန်တိုခြင်း၊ကောက်ကျစ်ခြင်း ၊ စဉ်းလဲခြင်း အစရှိ သော ယုတ်မာသော တရားအစုမှ ။ အာရတိ စ ၊ ကိုယ်၊ နှုတ် နှစ်ပြင် ဝေးစွာ ကြဉ်ရခြင်းသည် လည်း ကောင်း။ ဝိရတိ စ၊ စိတ်မနောတွင် အထူးကြဉ်ရ ခြင်းသည် လည်းကောင်း။

(ခ) မဇ္ဇပါနာ ၊ ယစ်မျိုး ၅-ပါးကို သောက်စားခြင်းမှ ။ သံယမော စ ၊ စောင့်ရှောက်ရခြင်းသည် လည်း ကောင်း။

(ဂ) ဓမ္မေသု ၊ ဒါန ၊ သီလ ၊ ဘာဝနာ စသော ပုည ကိရိယာ ၁၀-ပါး ကုသိုလ်တရားတို့၌ ။ အပ္ပမာဒေါ စ၊ ဘယ်ညဉ့် နေ့မှ မေ့ရှုတစ် မပြုမိဟု မရှိရခြင်း သ[illegible] လည်းကောင်း ။

တော် ၊ ဤတရား ၃-ပါးသည် ။ ဥတ္တမံ ၊ အများလောက သမုတ်ကြသော ဒိဋ္ဌ မင်္ဂလာ ၊ သုတ မင်္ဂလာ ၊ မုတ မင်္ဂလာ စသည်တို့ထက် ဆတက်လွန်ကျူး အထူးမြင့်မြတ်သော ။ မင်္ဂလံ ၊ လောကီ လောကုတ္တရာ ချမ်းသာပွားကြောင်း ကောင်းသော မင်္ဂလာ မည်၏ ။

၇။ (က) ဒေဝတော ၊ နတ်သား ။ ဂါရဝေါ စ ၊ ရိုသေထိုက်သော သူတို့၌သူတစ်ပါးကိုရိုသေရခြင်းသည် လည်းကောင်း။

(ခ) နိဝါတော စ ၊ နှိမ့်ချထိုက်သော သူတို့၌ မိမိကိုယ်ကို နှိမ့်ချရခြင်းသည် လည်းကောင်း ။

(ဂ) သန္တုဋ္ဌီ စ ၊ လောကသိုက်မြုံ ကာမဂုဏ်၌ အာရုံမကြီး တရားမှီး၍ သိမ်းဆည်း ခြိုးခြံ ကံပေးသမျှ ရတတ်သရွေ့ သူတော်လေ့ဖြင့် ချမ်းမြေ့စံပယ် ရောင့်ရဲလွယ်ရခြင်းသည် လည်းကောင်း ။

(ဃ) ကတညုတာ စ ၊ ထမင်းတစ်ဆုပ် ရေတစ်လုတ်မျှ မ,စ ပေးဖူး သူ့ကျေးဇူးကို အထူးကြီးကျယ် မြင်းမိုရ်နှယ်သို့ မကွယ်မပ သိတတ်ရခြင်းသည် လည်းကောင်း ။

(င) ကာလေန ၊ မကြာမကြာ အခါခါ၌ ။ ဓမ္မဿဝနံ စ ၊ ကုသိုလ်ပွားရာ အလိမ္မာပွားကြောင်း သူတော်ကောင်းအား ဆည်းကပ်ကြား၍ တရားဓမ္မ နာခံရခြင်းသည် လည်းကောင်း ။

တော် ၊ ဤတရား ၅-ပါးသည် ။ ဥတ္တမံ ၊ အများလောက သမုတ်ကြသော ဒိဋ္ဌ မင်္ဂလာ ၊ သုတ မင်္ဂလာ ၊ မုတ မင်္ဂလာ စသည်တို့ထက်

ဆံတက်လွန်ကျူး အထူးမြင့်မြတ်သော။ မင်္ဂလံ၊ လောကီ လောကုတ္တရာ ချမ်းသာပွားကြောင်း ကောင်းသောမင်္ဂလာမည်၏ ။

၈။ (က) ဒေ၀တော ၊ နတ်သား ။ ခန္တီ စ ၊ ချမ်းသာ တွေ့သော်လည်း မတက်ကြွ၊ ဒုက္ခတွေ့သော်လည်း စိတ်မပျက်၊ အမျက်မထန် သည်းညည်း ခံရခြင်းသည် လည်းကောင်း။

(ခ) သောဝစဿတာ စ ၊ ဆိုဆုံးမလျှင် ဒေါသမထွက် ကျေးဇူးတင်သဖြင့် ဆုံးမချင်ဖွယ် အလွန်လွယ်သော စကားရှိသည့်၏ အဖြစ်သည် လည်းကောင်း ။

(ဂ) သမဏာနံ ၊ ရဟန်းအပေါင်း သူတော်ကောင်းတို့ကို ။ ဒဿနဥ္စ ၊ ကြည်ဖြူလေးမြတ် ဆည်းကပ်ဖူးမြင် ရခြင်းသည် လည်းကောင်း ။

(ဃ) ကာလေန ၊ မကြာမကြာ အခါခါ၌ ။ ဓမ္မသာကစ္ဆာ စ ၊ လူကောင်း၊ ရှင်ကောင်း သူတော်ကောင်းနှင့် ပေါင်းဆုံကြား၍ တရားကျမ်းဂန် အတန်တန်ကို ဉာဏ်သွားသန့်ရှင်း လင်းထက်လင်းအောင် အချင်းချင်း နှီးနှော ပြောဆိုရခြင်းသည် လည်းကောင်း။

တော် ၊ ဤတရား ၄-ပါးသည် ။ ဥတ္တမံ ၊ အများလောက သမုတ်ကြသော ဒိဋ္ဌ မင်္ဂလာ၊ သုတ မင်္ဂလာ၊ မုတ မင်္ဂလာ စသည်တို့ထက် ဆံတက်လွန်ကျူး အထူးမြင့်မြတ်သော။ မင်္ဂလံ၊ လောကီ လောကုတ္တရာ ချမ်းသာပွားကြောင်း ကောင်းသော မင်္ဂလာ မည်၏ ။

၉။ (က) ဒေ၀တော ၊ နတ်သား ။ တပေါ စ ၊ ရှစ်ပါးဥပုသ် စောင့်ချုပ်ထိန်းသိမ်းခြင်း စသော ခြိုးခြံမှုသည် လည်းကောင်း။

(ခ) ဗြဟ္မစရိယဉ္စ ၊ ကာမဂုဏ်နှင့် အာရုံမစပ် မြတ်သော ရသေ့၊ ရဟန်းအကျင့်ကို ကျင့်ရခြင်းသည် လည်း ကောင်း။

(ဂ) အရိယသစ္စာနံ ၊ ဒုက္ခ ၊ သမုဒယ ၊ နိရောဓနှင့် မဂ္ဂဟူသည် ဖြူစင်ဖြောင့်မတ် လွန်ထူးမြတ်သော လေးရပ်သစ္စာ နက်နဲစွာတို့ကို။ ဒဿနဉ္စ ၊ ပြက်ပြက် ထင်ထင် ဉာဏ်၌ မြင်ရခြင်းသည် လည်းကောင်း ။

(ဃ) နိဗ္ဗာနသစ္ဆိကိရိယာ စ ၊ အစွန့်တွာမှန် ကိုယ်သန္တာန်၌ အမိုက်ခပင်း ကုန်ငြိမ်းခြင်းကို လင်းလင်း ထင်ထင် တွေ့မြင်သမျှ မျက်မှောက်ပြုရခြင်းသည် လည်းကောင်း ။

ဧတံ ၊ ဤတရား ၄-ပါးသည် ။ ဥတ္တမံ ၊ အများလောက သမုတ် ကြသော ဒိဋ္ဌ မင်္ဂလာ၊ သုတ မင်္ဂလာ၊ မုတ မင်္ဂလာ စသည်တို့ထက် ဆတက်လွန်ကျူး အထူးမြင့်မြတ်သော။ မင်္ဂလံ ၊ လောကီ လောကုတ္တရာ ချမ်းသာပွားကြောင်း ကောင်းသော မင်္ဂလာ မည်၏ ။

၁၀။(က) ဒေဝတော ၊ နတ်သား။ လောကဓမ္မေဟိ ၊ လောကဓံ တရား ရှစ်ပါးတို့နှင့် ။ ဖုဋ္ဌဿ ၊ ခိုက်တိုက်တွေ့ကြုံ ရသော။ ယဿ ၊ အကြင် တာဒိဂုဏ်နှင့် ပြည့်စုံ ပေလတ် ယောက်ျားမြတ်၏ ။ စိတ္တံ ၊ စိတ်သည် ။န ကမ္ပတိ ၊ မတုန်လှုပ်။

(ခ) အသောကံ ၊ ဒုက္ခမျိုးကြောင့် စိုးရိမ် ပူပန်ခြင်းလည်း မရှိ ။

(ဂ) ဝိရဇံ ၊ သုခမျိုးကြောင့် ကြိုးကြိုးကြွကြွ စိတ်ရွှင်ပျ သည့် ရာဂဟူသော မြူလည်း မရှိ။

(ဃ) ခေမံ၊ အတ္တာနုဝါဒဘေး ပရာနုဝါဒဘေး တို့မှလည်း ကင်းဝေး၏ ။

တာသ ၊ ထိုတာဒိဂုဏ်နှင့် ပြည့်စုံပေလတ် ယောကျ်ားမြတ်၏။ ဧတံ ၊ ဤတရား ၄-ပါးသည် ။ ဥတ္တမံ ၊ အများလောက သမုတ်ကြသော ဒိဋ္ဌ မင်္ဂလာ ၊ သုတ မင်္ဂလာ ၊ မုတ မင်္ဂလာ စသည်တို့ထက် ဆတက်လွန်ကျူး အထူးမြင့်မြတ်သော။ မင်္ဂလံ၊ လောကီ လောကုတ္တရာ ချမ်းသာပွါးကြောင်း ကောင်းသော မင်္ဂလာ မည်၏ ။

၁၁ ။ ဧဒေဝနေ ၊ နတ်သား ။ ဧတာဒိသာနိ ၊ ဤသို့သဘောရှိကုန်သော။ မင်္ဂလာနိ ၊ လောကီ ၊ လောကုတ္တရာ မင်္ဂလာတို့ကို။ ကတွာန ၊ ပြည့်စုံစွာ ပြုကျင့်နိုင်ကြကုန်သည်ရှိသော်။ သဗ္ဗတ္ထ ၊ နေလေရာရာ ခပ်သိမ်းသော အရပ်ဒေသတို့၌။ အပရာဇိတာ ၊ လောကီ လောကုတ္တရာ ချမ်းသာ စီးပွားတို့မှ ဆုံးရှုံးခြင်း မရှိမူ၍ကုန်သည် ဖြစ်၍။ သဗ္ဗတ္ထ ၊ နေလေရာရာ ခပ်သိမ်းသော အရပ်ဒေသတို့၌ ။ သောတ္ထိံ ၊ ကောင်းမြတ်ချမ်းသာ မင်္ဂလာနှင့် ပြည့်စုံခြင်းသို့ ။ ဂစ္ဆန္တိ ၊ ရောက်ရကုန်၏။ တေသံ ၊ ထိုမင်္ဂလာကို ထွေလာဥသုံ ကြံကြကုန်သူ နတ်၊ လူ အပေါင်းတို့အား။ တံ ၊ ထို ၃၈– ပါးသော တရားအပေါင်း သည်သာလျှင်။ ဥတ္တမံ ၊ အများလောက သမုတ်ကြသော ဒိဋ္ဌ မင်္ဂလာ၊ သုတ မင်္ဂလာ၊ မုတ မင်္ဂလာ စသည်တို့ထက် ဆတက် လွန်ကျူး အထူးမြင့်မြတ်သော ။ မင်္ဂလံ ၊ လောကီ လောကုတ္တရာ ချမ်းသာပွားကြောင်း ကောင်းသော မင်္ဂလာ မည်၏ ။

ဣတိ ၊ ဤသို့ ။ ဘဂဝါ ၊ မြတ်စွာဘုရားသည် ။ အဝေါစ ၊ ဟောကြားတော်မူ၏ ။ ဣတိ ၊ ဤသို့ သုတ် ကြားနာအပ်၏ ။

မင်္ဂလသုတ် ဂါထာ အနက်ပြီး၏ ။
ဤတွင် မင်္ဂလသုတ် နိဿယပြီး၏ ။

နိဂုံး

ဤတွင် ရွှေ့ကား အသက်-၂၀ အတွင်း၌ တည်ရှိကြကုန်သော ဗုဒ္ဓဘာသာ အမျိုးသား လူငယ်များတို့၏ အကျိုးငှာ ကောင်းစွာ စီရင်အပ်သော လယ်တီ မင်္ဂလသုတ္တန် ကျမ်းသည် အပြီးသို့ ရောက်၏ ။ ။

လယ်တီ မင်္ဂလ သုတ္တန် ကျမ်း ပြီး၏ ။